




အိုလမာ–အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်

# မော်လာနာအိုဗိုက်ဒွလ္လာဟ်ခါလိဒ်

ဒါမသ်ဗရကာအားသုဟုမုလ်အာလီယာဟ်

( လက်ထောက်ကျောင်းအုပ်ဆရာကြီး၊ ဂျာမေအဟ်ဖာရူကီယာဟ်–ကရာချိ )

ဆရာကြီး၏

# မပ်ကတ်သင်ကျောင်းဆရာများအတွက် လမ်းညွှန်မိန့်ကြားချက်များ

အိုလမာ–အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်မှ
စီစဉ်ထုတ်ဝေသည်။

# မပိုက်သမ်ကျောင်းဆရာများအတွက် လမ်းညွှန်မိန့်ကြားချက်များ

## ပုံနှိပ်မှတ်တမ်း

ထုတ်ဝေသည့်ကာလ – ၂၀၁၇ခုနှစ်၊ ဧပြီလ(၂၄)ရက်။
(ပထမအကြိမ်)

ထုတ်ဝေသူ – ဦးစိုးမိုးဦး(မြ–၀၁၅၃၉)
ရွှေကျောက်တုံးအစ္စလာမ့်စာပေဖြန့်ချိရေး
အမှတ်(၇၈)၊ ကုန်ဈေးတန်း(အောက်)လမ်း၊
ပန်းဘဲတန်းမြို့နယ်။

ပုံနှိပ်သူ – ဦးလှဦး(မြ–၀၅၃၈၃)၊ ခေတ်သစ်ပုံနှိပ်တိုက်၊
အမှတ်(၂၀၀)၊ လမ်း(၅၀)၊ ပုဇွန်တောင်မြို့နယ်။

အုပ်ရေ – ၁၀၀၀အုပ်

တန်ဖိုး – ဓမ္မဒါန

မျက်နှာဖုံးဒီဇိုင်း
နှင့်ဖြန့်ချိရေး –အိုလမာ–အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်

စီစဉ်သူ –အိုလမာ–အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်






ဒိုလမာ-အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်

# မော်လာနာအိုပိုက်ဒွလ္လာဟ်ခါလိဒ်

ဒါမသ်ဗရကားသုဟုမုလ်အာလီယာဟ်

( လက်ထောက်ကျောင်းအုပ်ဆရာကြီး၊ဂျာမေအဟ်ဖာရူကီယာဟ်-ကရာချိ )

ဆရာကြီး၏

# မပ်က်ဘဗ်ကျောင်းဆရာများအတွက်
# လမ်းညွှန်မိန့်ကြားချက်များ

ဒိုလမာ-အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်မှ
စီစဉ်ထုတ်ဝေသည်။

بسم الله الرحمن الرحيم

# နိဒါန်း

အလ်ဟမ်ဒုလိလ္လာဟ်........ အလ္လာဟ်အရှင်မြတ်၏ မဟာကရုဏာတော်ဖြင့် ၂၀၁၂-ခုနှစ် မပ်က်သဗ် ကျောင်းဆရာများ မုဇာကရဟ်ကို ၁၂-၄-၂၀၁၂ မှ ၁၈-၄-၂၀၁၂ထိ ရန်ကုန်တိုင်းဒေသကြီး မင်္ဂလာဒုံမြို့နယ်၊ ခလောက်ကွန်ဒိုင်ကျေးရွာ၊ ဂျာမေအ်ဗလီကြီးတွင် ကျင်းပပြီးစီးခဲ့ပါသည်။ အဆိုပါမုဇာကရဟ်တွင် ပါကစ္စတန်နိုင်ငံ ကရာချီမြို့ ဂျာမေအဟ်ဖါရူကိယဟ် အစ္စလာမ့်တက္ကသိုလ်ကြီး၏ လက်ထောက်ကျောင်းအုပ်ဆရာကြီး မော်လာနာအိုဘိုင်ဒွလ္လာဟ်ခါလိဒ်(ပါကစ္စတန်နိုင်ငံလုံးဆိုင်ရာ အစ္စလာမ်သက္ကသိုလ်များအဖွဲ့ချုပ် ဥက္ကဌ မောင်လာနာ စလီမွလ္လာဟ်ခါန်ဆပ်၏သား)နှင့်တကွ အဖွဲ့ချုပ် ဒု-ဥက္ကဌ များဖြစ်ကြသော အလ်ဟာဂျ် မောင်လာနာမွဖ်သီ ရှမ်စွတ်ဒုဟာ(မဇာဟရီ)၊ အလ်ဟာဂျ် မောင်လာနာ မုဟာမ္မဒ်ယူဆွဖ်ဆွာဟိဗ်၊ ဗဟိုပညာ ရေးကော်မတီဝင်များ ဖြစ်ကြသော မော်လဝီဟာရူးန်လူလားသ်၊ မွဖ်သီ နုအ်မားန်၊မွဖ်သီအရှ်ရဖ်၊ ကာရီ အဗ်ဒုရ်ရဟီးမ်-နေဇော်၊ မွဖ်သီ မုဟာမ္မဒ်ဂျလာလွဒ္ဒီးန်၊ ဟာဂျီ မုဟာမ္မဒ်ဂျလာလွဒ္ဒီးန်၊

ဟာဂျီ မုဟမ္မဒ်ရစူလ် တို့ပါဝင်တက်ရောက်ခဲ့ကြပါသည်။

ပြည်နယ်/တိုင်းဒေသကြီးအသီးသီးမှ မုဇာကရဟ်တက်ရောက်လာသောမပ်က်သစ်ကျောင်းဆရာများအရည်အတွက်မှာ-ရန်ကုန်တိုင်းမှ (၆၂)ပါး၊ ကရင်ပြည်နယ်မှ(၃၂)ပါး၊ ဧရာဝတီတိုင်းမှ(၁၉)ပါး၊ ပဲခူးတိုင်းမှ (၂၃)ပါး၊ တနင်္သာရီတိုင်းမှ(၄)ပါး၊ မန္တလေးတိုင်းမှ(၁၄)ပါး၊ မကွေးတိုင်းမှ (၄)ပါး၊ စစ်ကိုင်းတိုင်းမှ(၅)ပါး၊ ရှမ်းပြည် နယ်တောင်ပိုင်းမှ(၅)ပါး၊ ရှမ်းပြည်နယ်မြောက်ပိုင်းမှ(၆)ပါးနှင့် မွန်ပြည်နယ်မှသင်တန်းပို့ချဆရာ (၃)ပါး၊ စုစုပေါင်း (၁၇၇)ပါးတို့အချိန်ပြည့်တက်ရောက်ခဲ့ကြပါသည်။

မုဇာကရဟ်၏အစီအစဉ်များကို ၁၂-၄-၂၀၁၂ (ကြာသပတေးနေ့) နံနက်(၈း၃၀)နာရီတိတိတွင် စတင်ဖွင့်လှစ်ပြီး (၁၈-၄-၂၀၁၂) ဗုဒ္ဓဟူးနေ့ ဇိုဟ်ရ်မတိုင်မီ သင်တန်းဆင်းပွဲကျင်းပပြီးစီးခဲ့ပါသည်။ သင်တန်းကာလအတွင်း အိုလမာ-အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်၊ ဗဟိုပညာရေးကော်မတီမှ တာဝန်ရှိသူများ၏ မုဇာကရဟ်အတွက် ဖိတ်ကြားချက်အရ ရောက်ရှိလာသောဧည့်သည်တော်ဆရာသခင်ကြီး မော်လာနာ အိုဗိုင်ဒွလ္လာဟ်ခါလိဒ်ဆွာဟိဗ်က မပ်က်သစ်ကျောင်းဆရာများ အတွက် လိုက်နာဆောင်ရွက်ရမည့်အချက်များကို နေ့စဉ်မုဇာကရဟ် ပြုလုပ်ခဲ့ပါသည်။ ဤစာအုပ်တွင် ဆရာသခင်ကြီး၏ အလွန်တန်ဖိုးမဖြတ် နိုင်သော မပ်က်သစ်ကျောင်း ဆရာများအတွက် လမ်းညွှန်မိန့်ကြားချက်များကို စုစည်းတင်ဆက် ထားပါသည်။ မုဇာကရဟ် အစီအစဉ်တွင် ယပ်စ်ရ်နလ်ကုရ်အာန်သင်ကြားခြင်း၊ ဗယာနုသ်သဂ္ဂျီဗိဒ် သင်ကြားခြင်း၊ ကျမ်းတော်မြတ်ကုရ်အာန်သင်ကြားခြင်းနှင့် မုစာဗကဟ် အမှတ်ပေးစည်းမျဉ်းများအကြောင်းကို ကာရီအိစ္စမသွလ္လာဟ် ကလည်းကောင်း၊ ရေးဖြေဘာသာရပ်များ သင်ကြားခြင်းကဏ္ဍကို မော်လဝီ မုဟမ္မဒ်မာမ်ဆားကလည်းကောင်း၊ သအ်လီမွလ်အစ္စလာမ်မေး ခွန်းထုတ်ခြင်း၊ ဖြေကြားခြင်းကဏ္ဍကို ဟာဖိဇ်မုဟမ္မဒ်သွာလ်ဟာဟ်ကလည်းကောင်း၊ မူဖိဒ်ဘာသာရပ်များ သင်ကြားပို့ချခြင်းကဏ္ဍကို မော်လဝီမုဟမ္မဒ်

အွတ်စ်မာနံ(မော်လမြိုင်)ကလည်းကောင်း၊ ကျောင်းအုပ်ဆရာကြီးများ၏တာဝန်နှင့်ဝတ္တရားများကို မွဖ်သီအာဘွလ်ဟာစံကလည်းကောင်း၊ မုဇာကရဟ်ပြုလုပ်ကြပါသည်။ မပ်က်သစ်ကျောင်းများ၏ သင်ရိုးညွှန်းတမ်းနှင့်စပ်လျဉ်း၍ တက်ရောက်လာသောဆရာများ မုဇာကရဟ်ပြုလုပ်ပြီး အကြံပြုချက်များကိုဇဟိုပညာရေးကော်မတီသို့ တင်ပြထားပြီးဖြစ်ပါသည်။ မုဇာကရဟ်အစီအစဉ်အတွင်း မဒ်ရဆာဟ်ဆွာလေဟီယာဟ် ဟိဖ်ဇွလ်ကုရ်အာန် ကျောင်းမှဒရ်စေနေဇာမီ ကျောင်းသားများ-(၆)တန်း-(၇)တန်း-(၈)တန်းနှင့်(၉)တန်းတို့၏မုစာဇကာဟ်ပြိုင်ပွဲတစ်ခုကျင်းပပေးပြီး သင်တန်းဆင်းပွဲနေ့တွင် ဆုများပေးအပ်ခဲ့ကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

အလ်ဟာမ်ဒုလိလ္လာဟ်.. ကြီးကြယ်မြင့်မြတ်မှန်ကန်တော်မူသော အလ္လာဟ်အရှင်မြတ်၏မဟာကရုဏာတော်ဖြင့် ၂၀၁၂-ခုနှစ်မပ်က်သစ်ကျောင်းဆရာများ မုဇာကရဟ်အစီအစဉ် အောင်မြင်စွာပြီးဆုံးခဲ့ပြီဖြစ်ပါသည်၊ ဤမုဇာကရဟ်အစီအစဉ်တစ်ခုလုံး အောင်မြင်စွာပြီးဆုံးနိုင်ရေးအတွက် လူအား၊ ငွေအား၊ အကြံဉာဏ်အားများဖြင့် ကူညီခဲ့သူအားလုံးကို အထူးကျေးဇူးတင်ရှိကြောင်း မှတ်တမ်းတင်အပ်ပါသည်။ သင်တန်းဆင်းပွဲနေ့တွင် သင်တန်းတက်ရောက်လာသောဆရာများအား အမှတ်တရလက်ဆောင်အဖြစ် ကျမ်းတော်မြတ်ကုရ်အာန် (သဂျ်ဝီးဒ်အလင်းပြ-၅ပါရဟ်)တစ်အုပ်၊ အလ်မွဖ်သီစာစောင်(၂)အုပ်၊ လက်ဆွဲအိတ်(၁)လုံး၊ ပုဆိုးတစ်ကွင်း၊ ထမီတစ်ကွင်းနှင့် ခရီးစရိတ်အဖြစ် ရန်ကုန်တိုင်းမှဆရာများအား ငွေကျပ်နှစ်သောင်းစီ၊ အခြားပြည်နယ်/တိုင်းများမှဆရာများအား ငွေကျပ် သုံးသောင်းစီ အသီးသီးချီးမြှင့်ခဲ့ပါသည်။ အထူးသဖြင့်မုဇာကရဟ်ကျင်းပနိုင်ရေးအတွက် ဗလီကျောင်း တော်ကြီးကိုအသုံးပြုခွင့်ပေးထားသည့်အပြင် လိုအပ်သော ခိဒ်မသ်ကိစ္စအဝဝကို မငြီးမငြူကူညီဆောင်ရွက်ပေးကြသော ခလောက်ကွန်ဒိုင်ဂျာမေဗလီဂေါပကအဖွဲ့ကိုလည်းကောင်း၊ ဂေါပကအဖွဲ့အတွင်းရေးမှူး ဆအ်ဒီဘိုင်ကိုလည်းကောင်း၊ မဒ်ရဆာဟ်

ဆွာလေဟ်ယာဟ်ပဒ်ဖ်ဇလ်ကုရ်အာန်မှ ကျောင်းသားများကိုလည်းကောင်း၊ ကျောင်းအုပ်ဆရာကြီးနှင့်တကွ ကျောင်းဆရာများကိုလည်းကောင်း အထူးကျေးဇူးတင်ရှိကြောင်း မှတ်တမ်းတင်အပ်ပါသည်။

ငြိမ်းချမ်းပြီးသည်တော်ဆရာသခင်ကြီး၏ အူရဒူဘာသာဖြင့် ဟောကြားချက်များကို တိုက်ရိုက်မြန်မာဘာသာဖြင့် ဘာသာပြန်ဆိုပေးသော ဗူရသီဗလီရှေ့ဆောင်ဆရာကြီး မွဖ်သီနူးရ်မုဟမ္မဒ်ဆွာဟိဗ် အားလည်းကောင်း၊ မော်လာနာဟာရူးန်လူလားသ်ဆွာဟိဗ်အားလည်းကောင်း၊ ဤစာအုပ်ဖြစ်မြောက်ရေးအတွက် ဆရာသခင်ကြီး မော်လာနာအဗိုဒွလ္လာဟ်ခါလိဒ်ဆွာဟိဗ်၏ဟောကြားချက်များကို ဘာသာပြန်ဆိုရေးသားပေးပါသော မောင်လာနာဟာရူန်လူလားသ်ဆွာဟိဗ်၊ မွဖ်သီနုအ်မာနီ၊ မွဖ်သီအရှ်ရဖ်၊ မွဖ်သီမုဟမ္မဒ်ဂျလာလွဒ္ဒီးန်တို့အားလည်းကောင်း၊ စာအုပ်ဖြစ်မြောက်ရေးအတွက် အစအဆုံးစီးစဉ်သော ဟာဂျီ အွတ်စ်မာနီ (ဗဟိုပညာရေးကော်မတီဝင်)အားလည်းကောင်း၊ စာမူကြမ်းအား စိစစ်တည်းဖြတ်ပေးသော မော်လာနာ မုဟမ္မဒ် ရဖီးက် (အဇ်ဇီ)အားလည်းကောင်း အထူးကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

အိုလမာ–အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ချုပ်
ဗဟိုပညာရေးကော်မတီ

# ကမ္ဘာ့ဂရိုဘဂျီးပြုပြည့်ပပ်ကာ်သမိပညာရေး

၁၂-၄-၂၀၁၂ (ကြာသပတေးနေ့)ဟောကြားသည်

الحمد لله نحمده و نستعينه و نؤمن به و نتو كل عليه و نعو ذ بالله من شرور انفسنا و من سيئات اعمالنا من يهده الله فلا مضل له و من يضلله فلا هادى له و نشهد ان لا اله الا الله وحده وحده وحده لاشريك له و نشهد ان سيدنا وسندنا و مولانا محمدا عبده ورسو له الذى ارسله بشيرا و نذيرا وداعيا الى الله باذنه وسراجا منيرا امابعد فاعوذ بالله من الشيطان الرجيم

بسم الله الرحمن الرحيم

اِقْرَاْ بِاسْمِ رَبِّكَ الَّذِىْ خَلَقَ. خَلَقَ الْاِنْسَانَ مِنْ عَلَقٍ . اِقْرَاْ وَرَبُّكَ الْاَكْرَمُ. الَّذِىْ عَلَّمَ بِالْقَلَمِ . عَلَّمَ الْاِنْسَانَ مَالَمْ يَعْلَمْ.

အစဉ်ကြည်ညိုလေးစားအပ်တဲ့ အာလင်မ်သာသနာ့ပညာရှင်များ၊ အထူးသဖြင့် ဟာဇရသ်မော်လာနာ မွတ်ဖ်သီ နူးရ်မုဟမ္မဒ်ဆွာဟာစ်ဗ်၊ ဟာဇရသ် မွတ်ဖ်သီဂျလာလွှဒ္ဒီးန်ဆွာဟာစ်ဗ်နှင့် ကျွန်တော့်ကိုမြန်မာနိုင်ငံသို့ဖိတ်ကြားခဲ့တဲ့ ဟာဂျီဂျလာလွှဒ္ဒီးန်ဆွာဟာစ်ဗ်၊ ဟာဂျီအွတ်စ်မားန်ဆွာဟာစ်ဗ်နှင့် အခမ်းအနား

အစီအစဉ်ကို ကြွရောက်ချီးမြှင့်ကြတဲ့ အစ္စလာမ်ဘာသာဝင်ညီနောင် အပေါင်းတို့ခင်ဗျား–

အလ္လာဟ်အရှင်မြတ်ရဲ့အသနားတော်နဲ့ ဒီအစီအစဉ်ကို ဖြစ်မြောက် အောင်ကြိုးစားအားထုတ်ခဲ့တဲ့ သူတွေရဲ့သောကကြောင့် ကျွန်တော်ခင်ဗျား တို့ရဲ့ရှေ့မှောက်မှာ သာသနာ့စကားအချို့ ပြောကြားခွင့်ရနေခြင်းဖြစ်ပါတယ်၊ ဒါကြောင့် အရမ်းကိုနှစ်ထောင်းအားရဖြစ်မိပါတယ်။ အားလုံးကိုအထူးပဲ လှိုက်လှိုက်လှဲလှဲ ကျေးဇူးဥပကာရတင်ပါတယ်။ ကျွန်တော်ဟာ ဦးထိပ်ထားရလောက်တဲ့ အရိပ်လည်းမဟုတ်ဘူး၊ အရိပ်ပေးတဲ့အပင် လည်းမဟုတ်ဘူး၊ အပွင့်လည်းမဟုတ်ဘူး၊ အဖူးလည်းမဟုတ်ဘူး၊ အငုံလည်းမဟုတ်ပါဘူး၊ ကျွန်တော့်ကိုဘာလို့ဒီလိုအခွင့်အရေးမျိုး ပေးရတာလဲ၊ ဒါဟာခင်ဗျားတို့ကျွန်တော်နဲ့ပတ်သက်ပြီး အကောင်းမြင်ကြ လို့ဘဲလေ။ ခင်ဗျားတို့ကျွန်တော့် ကိုထင် မြင်ထားတဲ့အတိုင်း အလ္လာဟ်အရှင် မြတ်သခင်အနေနဲ့ 'ကဗူလ်' ပြုတော်မူပါစေလို့ဒုအာ ဆုမွန်တောင်းအပ်ပါ တယ်။

တာဝန်ရှိပုဂ္ဂိုလ်များရဲ့ပြောပြချက်အရ ယနေ့အခမ်းအနား အစီအစဉ်ဟာ တစ်ပြည်လုံးက အာလင်မ်သာသနာ့ပညာရှင်တွေ၊ မပ်က်သဗ် ဆရာတွေ၊ တစ်ပြည်လုံးမှာကျမ်းတော်မြတ် ကုရ်အာန်ကို ခိဒ်မသ်ပြု နေသူတွေရဲ့ အစီအစဉ်ဖြစ်တယ်လို့ သိရပါတယ်။

အလ္လာဟ်အရှင်မြတ်ဟာစကြဝဠာအလုံးစုံကို စိုးပိုင်တော်မူတဲ့ အရှင်သခင်ဖြစ်တယ်ဆိုတာ ခင်ဗျားတို့ကျွန်တော်တို့ အားလုံးရဲ့ အကီဒဟ် ယုံကြည်ချက်ဖြစ်ပါတယ်။ အလ္လာဟ်အရှင်မြတ်မှအပ ဒီကမ္ဘာစကြဝဠာ အလုံးစုံမှာရှိတဲ့ ရှိရှိသမျှအရာခပ်သိမ်းအားလုံး ဟဇရသ်အာဒမ် عليه السلام ကအစ တမန်တော်မြတ်မုဟမ္မဒ် ﷺ အဆုံး နဗီအပေါင်းအားလုံးဟာ အလ္လာဟ်အရှင်မြတ်ရဲ့ အဖန်ဆင်းခံတွေဖြစ်ကြပါတယ်။ စကြဝဠာအလုံးစုံ

သာမက ဖရစ်ရှိသဟ်တွေပါ အလ္လာဟ်အရှင်မြတ်ရဲ့ အဖန်ဆင်းခံတွေဖြစ်ကြပါတယ်။ အဲဒါတွေအားလုံးကို ဖန်ဆင်းထားတဲ့ဖန်ဆင်းရှင်ဟာ အလ္လာဟ်အရှင်မြတ်ပဲဖြစ်တယ်။ ဒါပေမယ့် တစ်ခုသဘောပေါက်နားလည်ထားရမှာကတော့ ရှိရှိသမျှအရာအားလုံး အဖန်ဆင်းခံတွေဖြစ်ပေမယ့် ကုရ်အာန်ကျမ်းတော်မြတ်က အဖန်ဆင်းခံမဟုတ်ဘူး။ ကုရ်အာန်ကျမ်းတော်မြတ်ဟာ အလ္လာဟ်အရှင်မြတ်ရဲ့ ဆိဖတ်(ဂုဏ်တော်)ဖြစ်တယ်။ ပြီးတော့ကျွန်တော်တို့အားလုံး ယုံကြည်ပြီးဖြစ်တဲ့အတိုင်း အလ္လာဟ်အရှင်မြတ်ကိုဘယ်သူမှ အားအင်ချည်နဲ့အောင်မလုပ်နိုင်သလို ပျက်သုဉ်းပျက်စီးအောင်လည်း မလုပ်နိုင်ပါဘူး။ အဲ့ဒီတော့ ကျမ်းတော်မြတ်ကုရ်အာန်ဟာ အလ္လာဟ်အရှင်မြတ်ရဲ့ဆိဖသ်တော်ဖြစ်တဲ့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်အပေါ်မှာ ကျွန်တော်တို့ထားရှိကြတဲ့ အကီဒဟ်အတိုင်း ကျမ်းတော်မြတ်ကုရ်အာန်ကိုလည်း ဘယ်သူမှမကောင်းကြံနိုင်မှာမဟုတ်ပါဘူး။ ကျမ်းတော်မြတ်ကုရ်အာန်ဟာ အလ္လာဟ်အရှင်မြတ်ရဲ့ မုဂ္ဂျဇာတော်ဖြစ်တယ်။

ပြီးတော့ ကျမ်းတော်မြတ်ကုရ်အာန်ကိုခိဒ်မသ်လုပ်နေတဲ့သူတွေ၊ ကျမ်းတော်မြတ်ကုရ်အာန်နဲ့ အဆက်အသွယ်ရှိတဲ့သူတွေဟာ အလ္လာဟ်အရှင်မြတ်နဲ့အဆက်အသွယ်ရှိနေတဲ့သူတွေလိုပါပဲ။ အဲဒီလိုကုရ်အာန်နဲ့အဆက်အသွယ်ထားထားတဲ့သူတွေ၊ ဆရာပဲဖြစ်ဖြစ်၊ ကျောင်းသားကျောင်းသူတွေပဲဖြစ်ဖြစ်၊ ဂေါပကအဖွဲ့တွေ၊ ကော်မတီတွေပဲဖြစ်ဖြစ်၊ မိဘတွေပဲဖြစ်ဖြစ် ကျွန်တော်အဲဒီပုဂ္ဂိုလ်အားလုံးကို ကောင်းချီးသြဘာမင်္ဂလာစကားပြောကြားလိုပါတယ်။ အလ္လာဟ်အရှင်မြတ်က မိမိရဲ့ကျေးဇူးတော်၊ အသနားတော်ကြောင့် ၎င်းတို့အားလုံးကို ကုရ်အာန်နဲ့ဆက်နွယ်ခွင့်ရဖို့အတွက် သောင်ဖီးက်စွမ်းအားတွေ ချီးမြှင့်ခဲ့တယ်။ ကျွန်တော်တို့ကို အလ္လာဟ်အရှင်မြတ်က အဲဒီလိုအခွင့်အရေး၊ အခွင့်အလမ်းတွေ ချီးမြှင့်တဲ့အတွက် ကျွန်တော်တို့ အလ္လာဟ်အရှင်မြတ်ကို ဘယ်လောက်ပဲ ကျေးဇူးဆပ်ဆပ်၊ ဆပ်လို့မကုန်နိုင်ပါဘူး။ မျက်မှောက်

ကာလမှာကျွန်တော်တို့တွေရဲ့ခံယူချက်နဲ့ ကျွန်တော်တို့ရဲ့ ပတ်ဝန်းကျင်က ဘယ်လိုဖြစ်နေလဲဆိုတော့ ကျမ်းမြတ်ကုရ်အာန်ကိုသင်ယူနေတဲ့သူတွေကို အထင်အမြင်သေးကြတယ်။ ဆရာဝန်တွေ၊ အင်ဂျင်နီယာတွေ၊ သိပ္ပံပညာရှင်တွေ၊ ကွန်ပျူတာပညာရှင်တွေကို အထင်ကြီးနေကြတယ်။

**သူတော်စင်အပေါင်းတို့ခင်ဗျား – – – – –**

မိမိတို့ရဲ့ဦးနှောက်၊ အတွေးအာရုံတွေထဲမှာ စွဲစွဲမြဲမြဲမှတ်ထားရမှာက ကျမ်းတော်မြတ်ကုရ်အာန်နဲ့ ဆက်နွယ်သူတွေလောက် ဒီကမ္ဘာမှာ အထင်ကြီးစရာလူနောက်တစ်ယောက်မရှိဘူး။ ကုရ်အာန်သင် ပေးနေတဲ့ ဆရာတွေပဲဖြစ်ဖြစ်၊ သင်ယူနေတဲ့ ကျောင်းသားတွေပဲဖြစ်ဖြစ်၊ သင်တန်းဖြစ်မြောက်ရေးကော်မတီတွေပဲဖြစ်ဖြစ်၊ အဲဒီသူတွေဟာ အလ္လာဟ်အရှင်မြတ်ရဲ့ ဆွဲဖ်ဖားသ်တော်နဲ့ ဆက်နွယ်ပတ်သက်မှုရှိတဲ့ အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်နဲ့လည်း ဆက်နွယ်သူတွေဖြစ်ကြတယ်။ အလ္လာဟ်အရှင်မြတ်နဲ့ဆက်နွယ်သူတွေလောက်ကြီးကျယ်ခမ်းနားသူတွေ ဒီကမ္ဘာမှာဘယ်သူရှိလို့လဲ။ အဲ့ဒီလိုပုဂ္ဂိုလ်တွေကို လုံးဝအထင်မသေးပါနဲ့။ အဲဒီပုဂ္ဂိုလ်တွေအနေနဲ့လည်း ငါတို့ဘာမှမဟုတ်ပါဘူးကွာဆိုပြီး ဘယ်တော့မှစိတ်အားမငယ်ပါနဲ့။ အဲဒီလိုအတွေးအခေါ်မျိုး ရှိုက်သွင်းထည့်ပေးရင်တောင်မှ ခေါင်းထဲကနေချက်ချင်းထုတ်ပစ်လိုက်ပါ။

အလ္လာဟ်အရှင်မြတ်က ငါတို့ကို ဒီလုပ်ငန်းအတွက် လက်ရွေးစင်တွေအဖြစ် ရွေးချယ်ထားတယ်ဆိုပြီး ကိုယ့်ကိုယ်ကိုဂုဏ်ယူပါ။ အဲဒီလိုသာ အလ္လာဟ်အရှင်ငါတို့ကို မရွေးချယ်ခဲ့ဘူးဆိုရင် ငါတို့ဟာအခြားလောကီလုပ်ငန်းအထွေထွေတွေမှာ နစ်မွန်းနေကြမှာပဲ၊ အလ္လာဟ်အရှင်မြတ်ရဲ့ ကျေးဇူးတော်နဲ့ပဲ ငါတို့ဒီလုပ်ငန်းမှာ ကူညီခွင့်ရတယ်၊ လုပ်ကိုင်ခွင့်ရတယ်၊ အကျိုးပြုခွင့်ရနေတယ်လို့မှတ်ယူပါ။ ဒါကြောင့် အလ္လာဟ်အရှင်မြတ်ရဲ့ မဟာ့မဟာကျေးဇူးတော်တွေဟာ ကျွန်တော်တို့အပေါ်မှာ ဆပ်မကုန်အောင်များပြားလှပါတယ်။

ကျမ်းမြတ်ကုရ်အာန်ထဲမှာ အလ္လာဟ်အရှင်မြတ်မိန့်တော်မူထားပါတယ်

لَئِنْ شَكَرْتُمْ لَأَزِيدَنَّكُمْ

(အသင်တို့ဝါအရှင်မြတ်ရဲ့ကျေးဇူးတော်တွေသိတတ်နေရင် ငါအရှင်လည်း ကေန်အမှန် အသင်တို့ကို ဆထက်တိုးလို့ချီးမြှင့်တော်မူမယ်။) အဲဒီလိုမဟုတ်ဘဲ ကျေးဇူးကန်းမယ်ဆိုရင်တော့ ဆက်လက် မိန့်တော်မူထားတဲ့အတိုင်း-

وَلَئِنْ كَفَرْتُمْ إِنَّ عَذَابِي لَشَدِيدٌ

(အလ္လာဟ်မလုပ်ပါစေနဲ့) အကယ်၍အသင်တို့ ကျေးဇူးကန်းမယ်ဆိုရင်တော့ ငါအလ္လာဟ်အရှင်ပေးမယ့်ပြစ်ဒဏ်ဟာလည်း အရမ်းပြင်းထန်တယ်။

ကျွန်တော်အဓိကပြောချင်တာကတော့ ကုရ်အာန်ဘက်တော်သားအားလုံးဟာ ဒီကမ္ဘာမှာအဆင့်အမြင့်ဆုံးလူသားတွေ၊ ဂုဏ်ထူးခံပုဂ္ဂိုလ်တွေဖြစ်တယ်။ ကမ္ဘာတစ်ခုလုံးရှိဆရာဝန်တွေ၊ အခြားပညာရှင်တွေအားလုံးပေါင်းလိုက်လည်း အလ္လာဟ်ထံတော်ပါးမှာ မပ်က်သဗ်ကျောင်းသားတစ်ယောက်ရဲ့ အဆင့်ကိုမမီနိုင်ဘူး။

သူတော်စင်အပေါင်းတို့ခင်ဗျား . . . . .

အခုရှေ့ဆက်ကျွန်တော်ပြောကြားမယ့်စကားတွေဟာ သိပ်အရေးကြီးတဲ့စကားတွေဖြစ်ပါတယ်။ ဒါပေမယ့် အဲ့ဒီစကားတွေဟာ ကျွန်တော့်စကားတွေမဟုတ်ပါဘူး။ ကျွန်တော့်ဆရာသမားအကြီးအကဲတွေဆီကကြားဖူးတဲ့စကားတွေကိုပဲ ကျွန်တော်ပြန်လည်တင်ပြလိုပါတယ်။

ကျွန်တော်တို့မပ်က်သဗ်တွေမှာရှိတဲ့ ဆရာသမားတွေလက်ထဲကို မိဘတွေက မိမိတို့ရဲ့ရင်သွေးငယ်လေးတွေကို ယုံယုံကြည်ကြည်နဲ့

လာရောက်အပ်နှံကြပါတယ်။ အဲဒီကလေးတွေဟာ အလစ်ဖ်၊ ဘာ၊ သာ၊ ဆာ ဆိုတာ ဘာလဲမသိဘူး။ အဲဒါကိုဆရာတွေက ကလေးတွေတတ်အောင် သင်ပေးခဲ့တယ်။ အဲ့ဒီဆရာသမားတွေအားလုံးကို အသိပေးချင်တာက ခင်ဗျားတို့ဟာ တကယ့်ကိုအရင်းခံ၊ အခြေခံကျတဲ့လက်ဦးဆရာတွေ ဖြစ်တယ်။ ခင်ဗျားတို့ဟာ အဆောက်အအုံတစ်ခုကို လိုသလိုတည်ဆောက်လို့ရတဲ့ အခင်္ကအုတ်မြစ်ချပေးနေတဲ့သူတွေဖြစ်တယ်။ ခင်ဗျားတို့ရဲ့ အဆင့်ဟာ စာအုပ်ကြီးတွေ၊ ကျမ်းဂန်ကြီးတွေ သင်ကြားပေးနေတဲ့ ဆရာကြီးတွေထက် အလွန်အဆင့်မြင့်တယ်။

ကျွန်တော့်ဆရာတစ်ယောက် ပြောဖူးတယ်။ 'မင်းတို့ကို ငါဟာဒီးစ်စာအုပ်ကြီးတွေ၊ သဖ်စီရ်ကျမ်းကြီး တွေသင်နိုင်တာ၊ မင်းတို့ ငါသင်တာတွေကို လွယ်လွယ်သဘောပေါက်နေတာတွေဟာ မင်းတို့ ငယ်ငယ်တုန်းကဖတ်ခဲ့တဲ့ မပ်က်သဗ်ကျောင်းကဆရာတွေရဲ့ ကျေးဇူး ကြောင့်ဆိုတာကို မမေ့နဲ့တဲ့၊ မင်းတို့သာ အဲဒီအခြေခံအဆင့်တွေ မဖတ်ခဲ့ဘူး၊ မသင်ခဲ့ဘူးဆိုရင် မင်းတို့ဒီအဆင့်ကိုရောက်လာနိုင်စရာအကြောင်းလည်း မရှိဘူး။ ငါလည်းမင်းတို့ကိုသဘောပေါက်အောင်သင်ပေးနိုင်မှာမဟုတ်ဘူး။ အဲဒီတော့ မင်းတို့အဲဒီမပ်က်သဗ်ကဆရာတွေရဲ့ ကျေးဇူးကို ဘယ်တော့မှ မမေ့နဲ့တဲ့။' အဓိကဆရာသမားတွေဆိုတာ ကျွန်တော်တို့ရဲ့လက်ဦးဆရာ၊ မပ်က်သဗ်ဆရာတွေဖြစ်တယ်။ သူတို့ရဲ့ပျိုးထောင်မှုကောင်းမှသာလျှင် ကလေးတွေရဲ့နောင်ရေး စိတ်အေးရမှာပါ။

ကျွန်တော်တို့တောင်အာရှနိုင်ငံတွေဖြစ်တဲ့ အိန္ဒိယ၊ ပါကစ္စတန်၊ ဘင်္ဂလားဒေ့ရှ်၊ မြန်မာပြည် အစရှိတဲ့နိုင်ငံတွေကို ကမ္ဘာကမဖွံ့ဖြိုး၊ မတိုးတက်သေးတဲ့နိုင်ငံတွေဆိုပြီး သတ်မှတ်ကြတယ်။ တကယ်ဖွံ့ဖြိုး တိုးတက်နေတဲ့နိုင်ငံတွေမှာ နေထိုင်ကြတဲ့သူတွေဟာ ကမ္ဘာမှာရှိရှိသမျှပညာ ရပ်တွေအားလုံး တတ်မြောက်ထားတယ်လို့ဆိုပြီး ကြွေးကျော်နေကြတယ်။ အဲဒီလိုကြွေးကျော်နေတဲ့သူတွေတောင် သူတို့ရင်သွေးတွေရဲ့

နှုတ်ကြိုအဆင့်အတွက် ဆရာရွေးချယ်တဲ့နေရာမှာ ဘယ်လောက်အထိ ရည်းကမ်းချက်တွေသတ်မှတ်ထားသလဲဆိုရင် တစ်ခါတစ်လေ မူလတန်းအဆင့်ဆရာတစ်ယောက်ရဖို့အတွက် (၅)နှစ်လောက်အချိန်ယူပြီး ရွေးချယ်ရတတ်တယ်။ သူတို့လိုချင်တဲ့ အဆင့်မီဆရာရမှာသာလျှင် ဆရာအဖြစ်ခန့်အပ်ကြတယ်။ အဲဒါအနောက်နိုင်ငံတွေ ရင်သွေးငယ်တွေရဲ့ အခြေခံပညာကို ဘယ်လောက် အလေးထားပြီးဆောင်ရွက်ကြသလဲဆိုတာ သိသာနိုင်တယ်။ သူငယ်တန်းအဆင့်၊ မူလတန်းအဆင့်အတွက် ဆရာခန့်အပ်တာတောင်မှ ဆရာအဖြစ်လာလျှောက်တဲ့သူတိုင်းကို ခန့်အပ်လေ့မရှိဘူး။ သေသေချာချာစိစစ်ပြီး ကလေးတွေနဲ့ အဆင်ပြေနိုင်မယ်၊ သင့်တော်မယ်လို့ယုံကြည်ရတဲ့သူတွေကိုပဲ ရွေးချယ်လေ့ရှိကြတယ်။ အတွေ့အကြုံရင့်ကျက်သူလည်း ဖြစ်ဖို့လိုတယ်။ အလယ်တန်းပညာ၊ အထက်တန်းပညာ၊ တက္ကသိုလ်အတန်းတွေမှာ စာသင်ရတာဘာမှမခက်ဘူး။ ပင်စည်ရှိပြီးသား အပင်တစ်ပင်ကို ဆက်လက်ရှင်သန်နေအောင်ပြုစုပျိုးထောင်ပေးရုံပဲလုပ်ရတာ၊ ဒါပေမယ့်မူလတန်း ကလေးကျတော့အခုမှမျိုးစေ့စချမှာ၊ မျိုးစေ့အောင်မယ်၊ မအောင်ဘူးဆိုတာလည်းဘာမှမသိရဘူး။ အဲဒီကလေးတွေရဲ့ဖြစ်ခြင်း၊ ပျက်ခြင်းဟာ သူတို့လေးတွေကို ပဲ့ကိုင်မယ့်ဆရာအပေါ်မှာပဲမူတည်တယ်။

**ဆရာကဒီကလေးကိုဖြစ်မြောက်အောင်လုပ်ပေးနိုင်သလို၊ ပျက်စီးအောင်လည်းလုပ်လိုက်လို့ရတယ်။** သူ့ကိုစချတဲ့မျိုးစေ့က မကောင်းဘူးဆိုရင် ဒီကလေးရဲ့ဘဝ ရှေ့ရေးလည်းကောင်းမှာမဟုတ်ဘူး။ ဒီအခြေခံအုတ်မြစ်မှာ မျိုးအောင်သွားပြီဆိုရင်တော့၊ 'အင်နရှာအလ္လာတ်' ဒီကလေးရဲ့ဘဝခရီးလမ်းလည်း ဖြောင့်ဖြူးသွားမှာဖြစ်တယ်။ အဲဒီတော့ကလေးကိုစာသင်တယ်ဆိုတာ သာမန်အဆင့် လောက်နဲ့မဖြစ်နိုင်ဘူး။ ဆရာမှာ ပင်ကိုယ်အရည်အချင်းရှိရမယ်။ အတွေ့အကြုံရင့်ကျက်သူ ဖြစ်ရမယ်။ ကလေးတွေရဲ့သဘာဝဗီဇအကျင့်စရိုက်တွေကို နားလည်

သူဖြစ်ရမယ်။

အဲဒီလိုအရည်အချင်းတွေတစ်ဆင့်ပြီးတစ်ဆင့် စစ်ဆေးပြီးတော့မှ သာလျှင် သူတို့နိုင်ငံတွေမှာ မူကြိုအတန်း၊ မူလတန်းဆရာတွေခန့်အပ်ကြတယ်။ ဒါပေမယ့် ကျွန်တော်တို့ကျတော့ အဲဒီအခြေခံပညာ သင်ပေးရမှာကို သိမ်ငယ်တယ်လို့ထင်ကြတယ်။ ကျွန်တော်တို့အရဗီကျောင်းတွေမှာ စာပြနေတဲ့ဆရာတွေကိုလိုက်ကြည့်လိုက်ပါ။ အတော်များများဟာ စာအုပ်ကြီးတွေပဲသင်ချင်ကြတယ်။ အောက်အတန်း ကစာအုပ်တွေဆို ဒါကလေးတွေဖတ်တာပါကွာဆိုပြီးမသင်ချင်ကြဘူး။ အဲ့ဒီတော့ မပ်က်သဗ်တွေမှာ စာပြမယ့်ဆရာကောင်းမရနိုင်တော့ဘူး။ပြီးတော့ ဒီကလေးတွေကို အခြေခံပညာ ဆိုတာမသင်ပေးလို့လည်းမဖြစ်၊ ဒါတွေမတတ်မြောက်ထားရင် သူ့ရှေ့ဆက်ဖတ်ရမယ့်အတန်းက စာအုပ်တွေကို ဘယ်လိုဖတ်နိုင်မှာလဲ။ အဲ့ဒီတော့မတတ်နိုင်တဲ့အဆုံး ဒီမပ်က်သဗ်တွေမှာ အရည်အချင်းမပြည့် မီတဲ့ဆရာတွေကို လက်ခံရ တော့တယ်။ အရည်အချင်းမပြည့်တဲ့ဆရာတွေနဲ့အုတ်မြစ်ချခံရတဲ့ကလေး၊ မျိုးစေ့ချခံလိုက်ရ တဲ့ကလေးရဲ့ဘဝရှေ့ရေးကတော့ · ရင်လေးစရာတွေနဲ့ပဲကြုံကြိုက်ရတော့တယ်။

သူတော်စင်အပေါင်းတို့ ခင်ဗျား. . . .

ကျွန်တော်အဓိကပြောချင်တာကတော့ မပ်က်သဗ်ပညာသင်ကြားရတယ်ဆိုတာရှက်စရာကိစ္စမဟုတ်ပါဘူး။ ခင်ဗျားတို့ကတကယ့်ကို အဓိကကျတဲ့တာဝန်ကြီးတစ်ရပ် ထမ်းဆောင်နေရတဲ့သူတွေဖြစ်တယ်။ ခင်ဗျားတို့ကောင်းအောင် လုပ်ချင်ရင်အားလုံး ကောင်းသွားလိမ့်မယ်။ ခင်ဗျားတို့ကစဖျက်လိုက်ပြီဆိုရင် ကလေးရဲ့အစမကောင်းတော့ဘူးဆိုရင် အနှောင်းလည်းသေချာမှာမဟုတ်တော့ဘူး။

အာလင်မ်သာသနာ့ပညာရှင်အပေါင်းတို့ခင်ဗျား . . . .

အလ်ဟမ်ဒို့လိလ္လာဟ် အလ္လာဟ်အရှင်မြတ်ကခင်ဗျားတို့ကို ကုရ်အာန်ကိုစိန်မယ်လုပ်ခွင့်၊ ဒီးန်ထိန်းသိမ်းစောင့်ရှောက်ခွင့် ချီးမြှင့်ထားတဲ့အပေါ်မှာ ကျွန်တော်ဂုဏ်ယူပါတယ်ဗျာ။ ခင်ဗျားတို့ကို တစ်ခုသတိပေးချင်တာကခင်ဗျားတို့ထမ်းဆောင်နေတဲ့တာဝန်ဟာ ကမ္ဘာမှာအကြီးဆုံးတာဝန်တစ်ခုဖြစ်တယ်။ အဲဒီတော့ကိုယ်ရထားတဲ့ အဆင့်ကို ဘယ်တော့မှတန်ဖိုးမဖြတ်ပါနဲ့။ ကိုယ့်ကိုယ်ကို ဘယ်တော့မှ လခစားလို့မခံယူပါနဲ့။ တာဝန်အရလုပ်ရတယ်ဆိုပြီးဘယ်တော့မှမတွက်နဲ့။ ခံစားချက်အပြည့်နဲ့ဒီအလုပ်ကိုလုပ်ပါ။ ကိုယ့်အလုပ်လို တန်ဖိုးထားပြီး လုပ်ပါ။ လကုန်ရင်ရမယ့်လခ ကိုမျှော်ကိုးပြီးမလုပ်ပါနဲ့။

ခင်ဗျားတို့ တကယ်ခံစားချက်ရှိရှိနဲ့ ရည်ရွယ်ချက်ရှိရှိနဲ့ လုပ်မယ်ဆိုရင် ခင်ဗျားတို့မပ်က်သဗ်ကထွက်မယ့်ကလေးတွေဟာ သူရိယနေမင်းကြီးလည်း ဖြစ်နိုင်သလို စန္ဒာလမင်းကြီးလည်းဖြစ်နိုင်တယ်။ ဒီကလေးတွေထဲကနေပဲ ကမ္ဘာကိုထိန်းကျောင်းမယ့်သူပေါ်လာနိုင်သလို နိုင်ငံတော်သမ္မတလည်း ဖြစ်လာနိုင်တယ်။ ခင်ဗျားတို့မပ်က်သဗ်က နေမွေးထုတ်ပေးထားတဲ့ ကလေးတွေဟာနောင်အနာဂတ်ရဲ့ရှေ့ဆောင် ပုဂ္ဂိုလ်ဖြစ်မယ်ဆိုတာမြဲမြဲမှတ်ထားပါ။ ခင်ဗျားတို့ဖြစ်ချင်တဲ့၊ ခင်ဗျား တို့လိုချင်တဲ့အများအကျိုးပြုမယ့်သူတွေဟာ ခင်ဗျားတို့မပ်က်သဗ်တွေကနေ စိတ်ကြိုက်မွေးထုတ်ယူလို့ရပါတယ်။

ခင်ဗျားတို့ရဲ့ခံစားချက်တွေနဲ့ထပ်တူ ကျအောင်လုပ်ပေးနိုင် တဲ့သူတွေဟာ ခင်ဗျားတို့စာသင်နေတဲ့ကျောင်းတွေရဲ့ စာသင်ခန်းထဲမှာ ပဲရှိတယ်။ ဒါပေမယ့်ခင်ဗျားတို့က ဘာစိတ်ခံစားချက်မှမရှိ၊ ဘာရည် ရွယ်ချက်၊ ဘာအာသီသမှမရှိဘဲ လစာအတွက်သာအလုပ်လုပ်ပြီး ဝမ်းစာရှာဖွေရေးလုပ်ငန်းတစ်ခုအဖြစ်သတ်မှတ်ထားမယ်ဆိုရင်တော့ ဒီကလေးတွေလည်းဘာမှဖြစ်လာနိုင်စရာအကြောင်း မရှိသလို ခင်ဗျားတို့လည်း ကျွန်လုံးလုံးဖြစ်ပြီလို့သာမှတ်လိုက်ပေတော့။

ခင်ဗျားတို့နဲ့ ဒွန္တယာအလုပ်လုပ်နေတဲ့လူတွေနဲ့ ဘာမှမကွာဘူး။ အတူတူပဲလို့သာခံယူလိုက်ပေတော့။ သူတို့လည်းဝမ်းစာရေး ရုန်းကန်နေကြသလို ခင်ဗျားတို့လည်းဒီဝမ်းတစ်ထွာအတွက်ပဲ ကျောင်းတွေမှာ အချိန်ပေးထားသူတွေ ဖြစ်ကုန်ကြလိမ့်မယ်။

ကျွန်တော်အခုနပြောခဲ့သလိုပဲ ခင်ဗျားတို့တကယ့်ခံစားချက်နဲ့အလုပ်လုပ်မယ်။ ငါတပည့်တွေကို ငါတကယ့်လူ့ရည်ချွန်တွေဖြစ်အောင်လုပ်ပေးမယ်ဆိုတဲ့စိတ်ဆန္ဒနဲ့ အလုပ်လုပ်မယ်။ မိုးမသိ၊ လေမသိ၊ အရိပ်မသိ၊ အပူမသိ အလုပ်လုပ်မယ်။ ကျောင်းဘယ်အချိန်တက်လဲ၊ ဘယ်အချိန်ဆင်းလဲ၊ ဘယ်နေ့ပိတ်လဲဆိုတာ ငါ့အလုပ်မဟုတ်ဘူး။ ငါ့အလုပ်က ကလေးပညာရေးတိုးတက်ဖို့၊ ဘဝရှေ့ရေး အောင်မြင်ဖို့၊ တကယ့်ကိုထူးချွန်ထက်မြက်ပြီး ကမ္ဘာကိုအကျိုးပြုမယ့် လူသားတွေဖြစ်လာဖို့ ထိပ်တန်းအာလင်မ်ပညာရှင်ကြီးတွေဖြစ်လာဖို့ဆိုတဲ့ ရည်ရွယ်ချက်တွေပိုက်ပြီးအလုပ်လုပ်ကြမယ်ဆိုရင် ကျွန်တော်ကာစမ်ကျိန်ပြီးပြောရဲတယ်။ တစ်နေ့ခင်ဗျားတို့ကလေးတွေရဲ့အရှေ့မှာ တစ်ကမ္ဘာလုံးဒူးထောက်ရလိမ့်မယ်။ ခင်ဗျားတို့ဖြစ်စေချင်တဲ့အတိုင်း ဒီကလေးတွေဖြစ်ကြမယ်။ အလ္လာဟ်နဲ့ အလ္လာဟ့်ရစူလ်ရဲ့အချစ်တော်တွေဖြစ်လာကြမယ်။

ပြီးတော့ခင်ဗျားတို့ကိုလည်း အလ္လာဟ်ကလာမ်ရဲ့ အကြောင်းခံနဲ့ ခင်ဗျားတို့ရဲ့စိတ်ထားဖြူစင်မှုတွေကြောင့် ဘယ်တော့မှအလ္လာဟ်အရှင် ခင်ဗျားတို့ကို အဝေတ်ထားမှာမဟုတ်ဘူး။ ရိဇ်ဟာအလ္လာဟ်ချီးမြှင့်ထားတာ၊ အလ္လာဟ်ဖန်ဆင်းထားတဲ့လူသားတွေကို အလ္လာဟ်ဘယ်တော့မှ အဝေတ်ထားမှာမဟုတ်ဘူး။ ခင်ဗျားတို့မလိုချင်လည်း အချိန်တန်ရင်ရိဇ်ရောက်လာမှာပဲ။

ဝမ်းစာအရေးတွေးပူပြီးတော့ ဝမ်းစာအတွက်ပဲ အလုပ်လုပ်မယ်ဆိုရင်တော့ ခင်ဗျားတို့အဆင့်တွေဒုံရင်းကဒုံရင်းပဲဖြစ်လိမ့်မယ်။ ခင်ဗျား

တို့လည်းအကျိုးမဖြစ်သလို ကလေးတွေရဲ့ရှေ့ရေးကိုပါ ခင်ဗျားတို့ ကိုယ့်လက်နဲ့ဖျက်ဆီးလိုက်သလိုဖြစ်သွားမယ်။ တစ်သက်လုံးလခစားဘဝနဲ့ ကျွန်လုံးလုံးဖြစ်နေလိမ့်မယ်။ အဲဒီတော့ဆရာတို့အားလုံးကို မေတ္တာရပ်ခံ လိုတာက ဘယ်တော့မှလခစားလို့ ကိုယ့်ကိုယ်ကို မသတ်မှတ်လိုက်ပါနဲ့။ အလ္လာဟ်ကလာမ်ကို တကယ့်စစ်မှန်တဲ့နည်းလမ်းနဲ့ ခိဒ်မသ်လုပ်မယ်လို့ ဆုံးဖြတ်လိုက်ပါ။ နေပူပူ၊ မိုးပဲရွာရွာ၊ လပဲသာသာ ငါ့အလုပ်မဟုတ်ဘူး။ ငါ့အလုပ်က ကျမ်းတော်မြတ်ကုရ်အာန်နဲ့ မိတ်ဖွဲ့ထားတဲ့အတွက်ကြောင့် ကျရာကဏ္ဍကနေကြုံသလို တာဝန်ထမ်းဆောင်ရမှာဖြစ်တယ်။ အဲဒီလိုသာဆရာတို့ဆုံးဖြတ်လိုက်ပြီလား။ အင်နိရှာအလ္လာဟ် ခင်ဗျားတို့ ရွှေခေတ်မဝေးတော့ဘူး။ တစ်ခါဖူးကမျှ မမြင်ဖူး၊ မကြားဖူး၊ မတွေးဖူး ထားတဲ့ အဆင့်အတန်းတွေကို မုချကေန် အလ္လာဟ်ရှင်မြတ်သခင်ချီးမြှင့်မှာ ဖြစ်တယ်။

ဒါရှလ်အိုလူးမ် ဒီယိုဘန်ဒ်ကျောင်းကြီးကိုလေ့လာကြည့်ပါ။ ဒီနေ့ကမ္ဘာမှာအစ္စလာမ်ကို အဓိကအကျိုးပြုနေတာ ဘယ်ဌာနလဲ။ ကမ္ဘာ့ဟောင်ဝင်ရိုးစွန်း၊ မြောက်ဝင်ရိုးစွန်းအရှေ့ဖျားကနေ အနောက်ဖျား အထိ ကြိုက်တဲ့နေရာမှာ လိုက်ကြည့်လိုက်ပါ။ ဒါရှလ်အိုလူးမ် ဒီယိုဘန်ဒ်က အောင်မြင်ထားတဲ့ ကျောင်းသားတွေရှိရမယ်။ အစ္စလာမ်အတွက်မားမား မတ်မတ်ရပ်ပြီး စစ်မှန်တဲ့ နည်းလမ်းတွေနဲ့ ကမ္ဘာကိုသာသနာပြုနေတာ၊ ဒါရှလ်အိုလူးမ်ဒီယိုဘန်ဒ်ကျောင်းကြီးရဲ့ အကျိုးဆက်တွေရထားတဲ့သူ တွေချည်းဘဲ။

အားလုံးဟာ ကျောင်းကြီးရဲ့ 'သား'၊ (သို့) 'မြေး'၊ (သို့) 'မြစ်'တော်နေကြရမယ်၊ တစ်နည်းမဟုတ်တစ်နည်းနဲ့ ဒါရှလ်အိုလူးမ် ရဲ့ 'ဖိုက်ဇ်'ကကမ္ဘာအနှံ့ ပြန့်နေတယ်။ မဒရိုစတ်ကျောင်းတွေမှာပဲကြည့်ကြည့်၊ ခါနကာဟ်တွေမှာပဲကြည့်ကြည့်၊ သဗ်လီးဂ်လုပ်ငန်းမှာပဲကြည့်ကြည့်၊ သာသနာ့သူရဲကောင်း အာဇာနည်တွေမှာကြည့်ကြည့်၊ အားလုံးဒါရှလ်

အိုလူးမ်ဒီယိုဘန်ဒ်နဲ့ ဆက်နွယ် ကြတဲ့သူတွေချည်းဘဲ။

ဒီကျောင်းတော်ကြီးဘာကြောင့်ဒီလောက် ထွန်းတောက်နေရတာလဲ၊ အောင်မြင်နေရတာလဲ၊ ကျောင်းတော်ကြီးကို ကနဦးတည်ထောင်ခဲ့တဲ့ဆရာကြီးတွေရဲ့အနိစ်လားစွဲကြောင့်ပဲဖြစ်တယ်။ အဲဒီဆရာကြီးတွေဟာလခစားမလုပ်ခဲ့ကြဘူး၊ သူများဆီမှာ ကျွန်မခံခဲ့ကြဘူး၊ ဟဇရဲ့နာနောင်သဝီ၊ ဟဇရဲ့ဂန်ဂိုဟီး၊ ဟဇရဲ့ရှိုက်ခွလ်ဟင်နီးဒ်တကယ့်ကိုအံ့မခန်းပုဂ္ဂိုလ်ကြီးတွေ၊ ဟဇရဲ့ရှိုက်ခွလ်ဟင်နီးဒ်ဆိုရင်အဲဒီခေတ်အဲဒီအခါက ဂွါတာနာမိုအကျဉ်းထောင်လို့ပြောလို့ရတဲ့မာလ်တာအကျဉ်းထောင်မှာ အနှိပ်စက်ခံဘဝနဲ့ သုံးနှစ်ခွဲတိတိထိန်းသိမ်းခံခဲ့ရတယ်။ အင်္ဂလိပ်အစိုးရရဲ့လုံးဝလူမဆန်တဲ့ နှိပ်စက်မှု၊ ညှဉ်းပန်းမှုအလုံးစုံကို ခါးစည်းခံခဲ့ရတယ်။

တလောကကရာချီမှာ ဟဇရဲ့မော်လာနာနဂျ်မွလ်ဟစန်ဆွာဟိဗ်ထာနဝီနဲ့တွေ့တော့ ကျွန်တော် သူ့ကိုမေးခွန်းတစ်ခုမေးတယ်။ ခင်ဗျားတို့ထာနဘဝန်မြို့ဟာတကယ်ကြီးကျယ်တဲ့ နေရာဌာနကြီးတစ်ခု ဖြစ်လျက်နဲ့ဘာလို့အဲဒီမှာ သမိုင်းဝင်ကျောင်းကြီးတွေမရှိတာလဲ။ ဒါရွလ်အိုလူးမ်ဒီယိုဘန်ဒ်လို ကျောင်းကြီးဟာတကယ့်ကိုခမ်းနားကြီးကျယ်တဲ့ ထာနဘဝန်လိုမြို့မှာထောင်သင့်တာပေါ့။ ဘာလို့ ဒီယိုဘန်ဒ်မှာ တည်ထောင်ထားရတာလဲဆိုပြီးမေးတော့ သူဖြေတဲ့အဖြေဟာအတော့်ကိုအံ့သြဖို့ကောင်းတယ်။ အရင်ကျွန်တော်တစ်ခါမှမကြားဖူးဘူး။ သူပြောတဲ့အဖြေကို ကျွန်တော့်ဖခင်ကိုမေးကြည့်တော့ ကျွန်တော့ဖခင်ကလည်းထောက်ခံတယ်။ သူကဘာပြောလဲဆိုတော့ အိန္ဒိယနိုင်ငံကို အင်္ဂလိပ်အစိုးရအုပ်ချုပ်တဲ့အချိန်ကမွတ်စ်လင်မ်တွေကိုမတရားနှိပ်စက်သတ်ဖြတ်မှုတွေပြုခဲ့တယ်။ ဒေလီမြို့မှာ အာလင်မ်တော်တော် များများကို သစ်ပင်ပေါ်မှာဆွဲကြိုးချပြီးသတ်ခဲ့တယ်။ အဲ့ဒါတော့ ကျွန်တော်တို့စာအုပ်တွေမှာဖတ်ဘူးတယ်။

ဒါပေမယ့် သူပြောတဲ့အထဲမှာ တစ်ခုဘာပါလဲဆိုတော့ အဲ့ဒီအင်္ဂလိပ်အစိုးရက ထာနဘဝန်မြို့မှာလည်း အာလင်မ်ပေါင်း(၂၅၀) ခန့်ကိုကြိုးပေးကွပ်မျက်ခဲ့တယ်။ ပြီးတော့သစ်ပင်တွေမှာ ဒီအတိုင်း တွဲလောင်းတွေချိတ်ထားခဲ့တယ်။ မြေမြှုပ်ခွင့်မပေးခဲ့ဘူး။ ၃-နှစ်တိတိ အဲဒီအတိုင်းဘဲတွဲလောင်းချိတ်ထားခဲ့တယ်။ ကြာလာတော့အလောင်းတွေက လုံးဝခြောက်ကပ်ပြီးကျုံ့သွားတယ်။ လေတိုက်လို့ရှိရင်အလောင်း တစ်လောင်းနဲ့တစ်လောင်းတိုက်မိရင်အသံတွေတစ်မြို့လုံး မြည်ဟီးသွား တယ်။ ထာနဘဝန်မှာလည်း အာလင်မ်တွေဟာ အဲလိုအဖြစ်မျိုးနဲ့ကြုံရတဲ့ အတွက်ကြောင့် အကာဗိရ်ဆရာကြီးတွေဖြစ်တဲ့ ဟာဇရသ်ဟာဂျီ အင်မ်ဒါဒွလ္လာဟ်ဆွာဟစ်ဗ်၊ ဟာဇရသ်နာနောင်သဝီ၊ ဟာဇရသ်ဂန်ဂိုဟီး တို့က ကျောင်းထောင်ဖို့ရည်ရွယ်ချက်နဲ့ ဘယ်လိုနေရာမျိုးမှာ ကျောင်း ထောင်သင့်သလဲဆိုပြီး တိုင်ပင်ဆွေးနွေးကြတယ်။ နောက်ဆုံး ဆရာကြီးတွေက ဘာဆုံးဖြတ်ချက်ချလဲဆိုတော့ ကျောင်းကိုလူအများ မျက်စိမကျနိုင်တဲ့နေရာ၊ အာရုံမရောက်တဲ့နေရာ၊ အင်္ဂလိပ်အစိုးရ နဲ့ဝေးရာအရပ်မှာ တည်ထောင်ရမယ်ဆိုပြီး ဆုံးဖြတ်လိုက်ကြတယ်။ အဲဒါနဲ့ဆရာကြီးတွေက အဲဒီနေရာကိုလိုက်ရှာတော့ ဂန်ဂိုးဟ်၊ နာနောင်သာ၊ ထာနဘဝန် စတဲ့မြို့တွေဟာ လူသွားလူလာများတဲ့မြို့တွေဖြစ်ပြီး အဝေးပြေးလမ်းမပေါ်မှာ တည်ရှိနေကြတဲ့အတွက်ကြောင့် အဲဒီနေရာကို မရွေးချယ်ခဲ့ကြဘူး။ နောက်ဆုံး ဒီယိုဘန်ဒ်မြို့ကို ရောက်တော့ နေရာကချောင်ကျ၊ အတွင်းကျနေတာကြောင့် အဲဒီနေရာကို ကျောင်း ထောင်ဖို့ရွေးချယ်ခဲ့ကြပြီး ထာနဘဝန်လိုကြီးကျယ်ခမ်းနားတဲ့မြို့မှာကျောင်း မထောင်ရခြင်းဖြစ်တယ်လို့ မော်လာနာနဂျ်မွလ် ဟစန်ဆွာဟစ်ဗ်က ရှင်းပြပါတယ်။

ခင်ဗျားတို့ကိုကျွန်တော်မေတ္တာရပ်ခံချင်တာက ကျွန်တော်တို့ ဒီအကာဗိရ်အကြီးအကဲ ဆရာကြီးတွေက ဒါရွလ်အုလူးမ်ကျောင်းတော်

ကြီးကို ဘယ်ပုံဘယ်နည်းအုတ်မြစ်ချခဲ့သလဲ။ ဒီဆရာကြီးတွေရဲ့ စိတ်ထားဖြူစင်မှုကြောင့် ဒီနေ့ကမ္ဘာမှာ ဒါရုလ်အုလူးမ်ကျောင်းကြီးဟာ အောင်လံလွှင့်နေခြင်းဖြစ်တယ်။ ဒီဆရာကြီးတွေဟာ ပစ္စည်းဥစ္စာ စည်းစိမ်ဂုဏ်ဒြပ်တွေအတွက် အလုပ်လုပ်ခဲ့တာ မဟုတ်တဲ့အတွက်ကြောင့် ဒီကျောင်းတော်ကြီးကနေ တကယ့်မဟာလူသားကြီးတွေ မွေးထုတ်ပေးနိုင်ခဲ့တယ်။ အဲဒီတော့ခင်ဗျားတို့ အနေနဲ့လည်း အဲဒီလိုဆရာကြီးတွေရဲ့ စိတ်ထားတွေမွေးမြူကြပါ။ ဘယ်တော့မှ ဥစ္စာပစ္စည်းမက်မောမှုတွေကို အတွေးအာရုံထဲမှာမထည့်ပါနဲ့။ ဘယ်တော့မှလခစားအဖြစ်နဲ့ ကိုယ့်ကိုယ်ကို မသတ်မှတ်လိုက်ပါနဲ့။ အမြဲတမ်း အလ္လာဟ်အရှင်မြတ်ကြည်ဖြူနှစ်သက်မှု ရဖို့အတွက်ပဲ အလုပ်လုပ်ပါ။

ဒါရုလ်အုလူးမ်ဒီယိုဘန်ဒ်ကျောင်းကြီးကို တည်ထောင်ခဲ့တဲ့ ဆရာကြီးတွေရဲ့ စိတ်ထားဖြူစင်မှုကြောင့် ဒီနေ့ကမ္ဘာမှာ အမှန်အမှား၊ အဆိုးအကောင်း၊ အဖြူအမဲယှဉ်လာပြီဆိုရင် အမြဲတမ်း အမှန်တရားဘက်ကနေ မားမားမတ်မတ်ရပ်တည်ခဲ့တာ ဒါရုလ်အုလူးမ်ကျောင်းထွက် ပုဂ္ဂိုလ်တွေ၊ ဒါရုလ်အုလူးမ်ရဲ့ အကျိုးဆက်ရထားတဲ့ ပုဂ္ဂိုလ်တွေကို တွေ့ကြရလိမ့်မယ်။ အဲဒီတော့ဆရာတို့လက်ထဲမှာရှိနေတဲ့ ကလေးတွေလည်း ကမ္ဘာကိုပြောင်းလဲ ပေးနိုင်တယ်ဆိုတာကိုသတိပြုပါ။ ဆရာတို့ရဲ့စိတ်ဓါတ်အရင်းခံနဲ့ပဲ ဒီကလေးတွေဟာ လူ့ပတ်ဝန်းကျင်ကြီး တစ်ခုလုံးကိုပြောင်းလဲပေးနိုင်သလို၊ ဖျက်လိုဖျက်ဆီးလည်းပြုလုပ်နိုင်တယ်။ ဒီမပ်က်သဗ်ရဲ့ အုတ်မြစ်ကောင်းသွားပြီ၊ အခြေခိုင်သွားပြီဆိုရင် ဒီကလေးရဲ့ဘဝ တစ်ခုလုံးလည်း စိတ်ချသွားရပြီလို့မှတ်ပါ။

မပ်က်သဗ်ကဆရာတွေက ကျွန်တော့်ကို ငယ်ငယ်လေး ကတည်းကသင်ကြားပေးခဲ့တဲ့ဒုအာတွေနဲ့ ကျွန်တော်ဒီနေ့အထိ ခရီးဆက်နေတာဖြစ်တယ်။ ထမင်းစားရင်ဖတ်ရတဲ့ဒုအာ၊ စားနေရင်း ဖတ်ရတဲ့ဒုအာ၊ စားပြီးနောက်ဖတ်ရတဲ့ဒုအာ၊ အက်ချိဝတ်ရင်ဖတ်ရတဲ့ဒုအာ၊

ချွတ်ရင်ဖတ်ရတဲ့ဒုအာ၊ ဗလီအဝင်၊ အထွက် ဒုအာ၊ အိမ်သာအဝင်၊ အထွက်ဒုအာ အစရှိတဲ့ဒုအာတွေအားလုံးဟာ ကျွန်တော် ဟိုးမပ်က်သဗ် ကလေးဘဝထဲကရခဲ့တဲ့ဒုအာတွေဖြစ်တယ်။ဒါတွေကိုကျွန်တော်မော်လဗီအတန်းတွေမှာ ရခဲ့တာမဟုတ်ဘူး။ မော်လဗီအတန်းတွေမှာ မပ်က်သဗ်မှာကျက်ခဲ့တဲ့ ဒုအာတွေအပြင် ဘယ်ဒုအာမှမကျက်ဖြစ်ဘူး၊ ကလေးဘဝမှာ ဒီဒုအာတွေကိုရသွားတဲ့ ကလေးတစ်ယောက်ဟာ သူ့ရဲ့ဘဝမှာ ကြုံတွေ့ရမယ့်လုပ်ငန်းတိုင်းကို ဒုအာတွေနဲ့အစပြုရင်း ဒုအာတွေနဲ့အဆုံးသတ်ရင်းနဲ့ သူ့ရဲ့လုပ်ငန်းတွေ အောင်အောင် မြင်မြင်ပြုလုပ်နိုင်မှာဖြစ်တယ်။

အဲဒီတော့ဆရာတို့အနေနဲ့ ဒီကလေးတွေအတွက် အလုံးအရင်းနဲ့ ပေးဆပ်ပါ။ ဒီကလေးတွေအတွက် မီးပြတိုက်ဖြစ်သွားကြပါ။ ကလေးတွေ အတုယူနိုင်မယ့် စံနမူနာကောင်းတွေအဖြစ် ကိုယ့်ကိုယ်ကိုပြုပြင်လိုက်ကြပါ။ ခင်ဗျားတို့ပတ်ဝန်းကျင်ကိုပြောင်းပစ်ဖို့အတွက် ခင်ဗျားတို့လက်ထဲမှာရှိနေတဲ့ ကုန်ကြမ်းတွေကို ကုန်ချောအဖြစ်ပြုလုပ်တဲ့နေရာမှာ ခင်ဗျားတို့မပ်က်သဗ် ဆရာတွေဟာ တာဝန် အရှိဆုံးပုဂ္ဂိုလ်တွေဖြစ်တယ်။

အာလင်မ်သာသနာ့ပညာရှင်များခင်ဗျာ. . . .

မူရင်းကောင်းမှမိတ္တူကောင်းမယ်ဆိုတာဓမ္မတာပါဘဲ။ကိုယ် ကောင်းမှ သူများကိုလည်းကောင်း အောင်လုပ်နိုင်မယ်။ ကိုယ်ကတော့ ပျက်နေပြီးတော့သူများကို ကောင်းအောင်လုပ်ပေးမယ်ဆိုရင် ဘယ်တော့ မှဖြစ်လာမှာမဟုတ်ဘူး။ အဲဒီတော့ ကျွန်တော်တို့မပ်က်သဗ်တွေမှာ စာသင်ကြားနေတဲ့ဆရာတွေလည်း အားလုံးကိုယ်စီ ပင်ကိုယ်အရည်အချင်း ကောင်းတွေရှိဖို့လိုတယ်။ ကိုယ့်နှလုံးသားထဲမှာအလ္လာ့ဟ်အချစ်၊ အလ္လာဟ့်ကြောက်စိတ်တွေ ပြည့်နှက်နေဖို့လိုတယ်။ ကိုယ်ကသက္ကဝါ နဲ့နေပြမှသာ ကလေးကလည်း ကိုယ့်ကိုကြည့်ပြီး အတုကောင်း၊ အတတ်ကောင်း ရယူနိုင်မှာဖြစ်တယ်။ ကိုယ်ကမကောင်းဘူးဆိုရင်

ခင်ဗျားကိုကြည့်နေတဲ့ကလေးက အကောင်းအဆိုးခွဲခြားတတ်တဲ့ အရွယ်မဟုတ်သေးဘူး။ ခင်ဗျားလုပ်တာအားလုံးကြည့်ပြီး ဒီကလေးလည်း လိုက်လုပ်မှာဖြစ်တဲ့အတွက်ကြောင့်ခင်ဗျားမကောင်းရင် ဒီကလေးလည်း ကောင်းတော့မှာမဟုတ်ဘူး။ ပြီးတော့ဆရာတို့ အားလုံးသိပြီးဖြစ်တဲ့အတိုင်း အဒ်မာလ်တွေရဲ့ကောင်းကျိုး၊ ဆိုးကျိုးဟာ ပြုလုပ်သူရဲ့နီယသ်အပေါ်မှာဘဲ မူတည်တယ်။ ကိုယ်ဘယ်လောက်နီယသ်ကောင်းထားမလဲ။ ကိုယ့်ရဲ့ အဒ်မာလ်လည်း အဲဒါနဲ့ထပ်တူအကျိုးပေးမှာဖြစ်တယ်။

တစ်ခါက ကျွန်တော့်ဖခင်ကို မေးခွန်းတစ်ခု မေးဖူးတယ်။ ကျွန်တော်တို့အလုပ်တွေ၊ လုပ်ငန်းတွေတော့ နေ့စဉ်နှင့် အမြဲလုပ်နေကြတယ်။ ဒါပေမယ့်များသောအားဖြင့် အဲဒီလုပ်ငန်းတွေမှာ ရွတ်ဆိုရတဲ့ ဒုအာတွေ မေ့သွားလေ့ရှိကြတယ်။ သတိမထားမိတတ်ကြဘူး။ထမင်းစားရင် ဒုအာဖတ်ဖို့မေ့နေတယ်။ ရေသောက်ရင် ဒုအာဖတ်ဖို့မေ့ နေတယ်။ အဲဒီလိုပဲ အစရှိတဲ့ လုပ်ငန်းတွေကို လုပ်ကိုင်ဆောင်ရွက် တဲ့နေရာမှာ ဟဒီးဆ်တော်လာဒုအာတွေ ရွတ်ဆိုဖို့မေ့နေတတ်ကြတယ်။ အဲဒီရောဂါကို ဘယ်လိုကုစားရမလဲဆိုပြီး ကျွန်တော့်ဖခင်ကိုမေးတော့ ကျွန်တော့်ဖခင်က တော်တော်ကောင်းတဲ့ အဖြေတစ်ခုပေးတယ်။ ဆေးနည်းတစ်ခုပေးတယ်။ အဲဒါကိုခင်ဗျားတို့လည်း ကျင့်သုံးကြည့်ပါ။ အင်န်ရှာဟ်အလ္လာဟ် အောင်မြင်မှုရှိလိမ့်မယ်။ ဘာပြောလဲဆိုတော့ မင်းဒုအာဖတ်ဖို့ မေ့သွားတယ်မဟုတ်လား။ မင်းသတိပြန်ရတဲ့အချိန် ချက်ချင်းအဲဒီအလုပ်နဲ့ သက်ဆိုင်တဲ့ဒုအာကိုဖတ်လိုက်ပါတဲ့။ ဥပမာဆိုကြပါစို့။ ခင်ဗျားထမင်းစားတဲ့ အချိန် ဒုအာဖတ်ဖို့မေ့သွားတယ်။ ထမင်းစားပြီး အတော်ကြာမှသတိရတယ်။ အခုထမင်းချိန်လည်းမဟုတ်ဘူး။ တခြား အလုပ်တစ်ခုခု လုပ်နေတယ် ဆိုရင်လည်း အဲဒီအချိန်မှာ အဲဒီမေ့သွားတဲ့ ဒုအာကို ဖတ်လိုက်ပါတဲ့။ အဲဒီမျိုးခဏခဏလုပ်ပေးလိုက်ရင် နောက်နောင် ဘယ်တော့မှ ထမင်းစားရင် ဖတ်ရတဲ့ဒုအာကို မေ့တော့မှာမဟုတ်ဘူးတဲ့။

'အလ်ဟမ်းဒုလိလ္လာဟ်' ကျွန်တော့်ဖခင်ပြောတဲ့ နည်းအတိုင်း ကျင့်သုံးကြည့်တော့ အောင်မြင်မှုရခဲ့ပါတယ်။ အဓိကကတော့နီယသ်ပဲ။ ကိုယ်တစ်ကယ်လုပ်ချင်ပါတယ်ဆိုတဲ့နီယသ်ပိုက်လိုက်ရင် လောလော လတ်လတ်မဖြစ်သေးရင်တောင်မှ တစ်နေ့ကိုယ်လိုချင်တဲ့ပုံစံတစ်ခုကို ရရှိလာမှာဖြစ်တယ်။ ကျွန်တော့်ကျောင်းကဆရာတွေကို ကျွန်တော် မှာကြားလေ့ရှိတာတစ်ခုက ဆရာတို့စာသင်ဖို့အတွက် အတန်းထဲဝင်ပြီဆိုရင် ဒီကလေးတွေကိုဘယ်လိုဖြစ်မြောက်အောင်လုပ်ပေးမယ်ဆိုတဲ့ နီယသ် အရင်လုပ်ပါ။ ပြီးမှအတန်းထဲဝင်ပါ။ အကယ်၍နီယသ်လုပ်ဖို့သတိမရဘူး ဆိုရင် အခုနကျွန်တော့်ဖခင်ပြောတဲ့နည်းအတိုင်း အမလ်လုပ်ပါဆိုပြီး ကျွန်တော့်ကျောင်းကဆရာတွေကို ကျွန်တော်မှာကြားလေ့ရှိတယ်။ အဲဒါကိုပဲကျွန်တော်ဒီက မပ်က်သဗ်ဆရာသမားတွေကိုမှာကြားလိုပါတယ်။

စာသင်ဖို့အတန်းထဲဝင်တာနဲ့ ဒီလိုနီယသ်လုပ်ပါ။ ငါဒီကလေးတွေကို ဘယ်လိုထူးချွန်ပြောင်မြောက်တဲ့ ကလေးတွေဖြစ်အောင်လုပ်ပေးမယ်ဆိုတဲ့ ရည်ရွယ်ချက်ကိုနှလုံးသွင်းပါ။ ပြီးတော့ကလေးတွေအတွက် သတိရတိုင်း အလ္လာဟ့်ထံမှာငိုယိုပြီးဒုအာတောင်းပါ။ ကလေးတွေကိုလည်း ဒုအာ တွေသင်ပေးတဲ့အခါမှာ ဒုအာဖတ်တာကိုမသင်ပေးပါနဲ့။ ဒုအာတောင်းတာ ကိုသင်ပေးပါ။ အလ္လာဟ့်ဆီကနေ ဘယ်လိုရိုကျိုးစွာနဲ့ငိုယိုပြီးဒုအာတောင်း ရသလဲဆိုတာကိုသင်ပေးပါ။ ကျောင်းကဆရာသင်ပေးသလို ဒုအာတွေ အလွတ်ကျက်ပြီး နှုတ်တိုက်လက်မြှောက်ပြီး ဒုအာတောင်းရတာမဟုတ်ဘူး။ ခံစားချက်အပြည့်နဲ့ရည်ရွယ်ချက်ရှိရှိနဲ့ ထိထိမိမိ ဒုအာတောင်းနည်းကို သင်ပေးပါ။ ဘယ်လိုကိစ္စမျိုးမဆို အလ္လာဟ်နဲ့ဆက်သွယ်ပြီး ဖြေရှင်း တတ်အောင်သင်ပေးရမယ်။ အလ္လာဟ်နဲ့ပဲဖြစ်တယ်ဆိုတဲ့အသိ ဒီကလေး တွေရဲ့နှလုံးသားထဲကိုထည့်ပေးရမယ်။

ကျွန်တော်တို့ဖုန်းတွေထဲမှာ လူကြီးတွေတာဝန်ရှိပုဂ္ဂိုလ်တွေရဲ့ ဖုန်းနံပါတ်တွေ၊ အရေးပေါ်ဌာနတွေ၊ အခြားသက်ဆိုင်ရာအစိုးရရုံးတွေ၊

ဌာနတွေရဲ့ဖုန်းနံပါတ်တွေထည့်ထားတတ်ကြတယ်။ နည်းနည်းလေး ပြဿနာတစ်စုံတစ်ရာကြုံရပြီဆိုတာနဲ့ အဲဒီဖုန်းနံပါတ်တွေထဲက သက်ဆိုင်ရာရုံးတွေ၊ ဌာနတွေ၊ လူကြီးတွေဆီဖုန်းဆက်ပြီး အကူအညီ တောင်းလေ့ရှိကြတယ်။ ဒါပေမယ့် အလ္လာဟ့်ကို အဆက်အသွယ် လုပ်ရမယ့်ကိစ္စကိုတော့ မေ့နေတတ်ကြတယ်။ ခင်ဗျားတို့ကလေးတွေကို အဲဒီလိုအဖြစ်မခံပါနဲ့။ ဘယ်လိုကြီးမားတဲ့ပြဿနာပဲကြုံရကြုံရ ပထမဦးဆုံး အလ္လာဟ် အရှင်မြတ်ကိုဆက်သွယ်ရမယ့် နည်းလမ်းတွေသင်ပေးပါ။ ရဆူလ်ရဲ့နောက်လိုက် အနှံ့အတာခံနည်းတွေသင်ပေးပါ။ ကိုယ်တိုင်လည်း ဒီကလေးတွေအတွက်ဒုအာလုပ်ပါ။ အဲဒီလိုသာ ဆရာတို့မိမိတို့ရဲ့ကလေးတွေ၊ ကျောင်းသား/သူတွေကို သွန်သင်သွားမယ်ဆိုရင်ဖြင့် တကယ်စစ်မှန်တဲ့ နီယသ်တွေနဲ့လမ်းညွှန် သွားမယ်ဆိုရင်ဖြင့် အင်န်ရှာဟ်အလ္လာဟ် သာသနာအတွက် တကယ်အကျိုးဖြစ်မယ့် သားကောင်းရတနာတွေ ဒီမပ်က်သဗ်ကျောင်းတွေကနေပဲပေါ်ထွန်းလာမှာဖြစ်တယ်။

ခင်ဗျားတို့ အဲဒီလိုစစ်မှန်တဲ့နီယသ်တွေနဲ့ ကြိုးပမ်းကြမယ်ဆိုရင်ကျောင်းသားတွေ၊ ကျောင်းသူတွေတစ်နေ့လုပ်ပြမယ့်အလုပ်တွေဟာ ခင်ဗျားတို့ပါဩချသွားရမယ်။ ဒီကျောင်းသားတွေပဲ ကမ္ဘာကိုအကျိုးပြုလိမ့်မယ်။ သာသနာကိုအကျိုးပြုလိမ့်မယ်။ ဒီကျောင်းသူတွေပဲ တစ်နေ့စံပြမိခင်ကြီးတွေဖြစ်လာကြမယ်။ စံပြအိမ်ထောင်ရှင်မကြီး ဖြစ်လာကြမယ်။ အဲဒါခင်ဗျားတို့ မပ်က်သဗ်ကျောင်းတွေက တတ်မြောက်အောင်မြင်ထားတဲ့ကျောင်းသား၊ ကျောင်းသူတွေချည်းဘဲ။

ခင်ဗျားတို့အဖြစ်အပျက်ကလေးတစ်ခုကြားဖူးပါလိမ့်မယ်။ ရှေးယခင်တုန်းက အာဖဂန်နစ္စတန်နိုင်ငံမှာ ရှားဟ်အမာနွတ်လ္လာဟ် ဆိုတဲ့ဘာသာရေးအလွန်ကိုင်းရှိုင်းတဲ့ဘုရင်တစ်ပါးရှိတယ်။ သူ့မှာ ကြင်ယာတော်တစ်ပါးနဲ့ သားတော်တစ်ပါးလည်းရှိတယ်။ တစ်နေ့နိုင်ငံအတွင်းမှာသူပုန်ထတော့ ဘုရင်က မိမိရဲ့သားတော်ကို စစ်ဦးစီးချုပ်အဖြစ်

ခန့်အပ်ပြီး တပ်မကြီးတစ်တပ်စေလွှတ်လိုက်တယ်။ ဘုရင်ကနိုင်ငံပိုင် မီဒီယာသတင်းဌာနတွေကိုလည်း စစ်ပွဲအကြောင်းသတင်းတွေကို အချိန်တိုင်းသူ့ဆီလာရောက် သတင်းပေးပို့ဖို့မှာကြားထားတယ်။ လူကြီးမင်းတို့အားလုံးသိကြတဲ့အတိုင်း နိုင်ငံပိုင်မီဒီယာဆိုတာ တကယ့်ခိုင်လုံတဲ့သတင်းတွေကိုပဲဖော်ပြလေ့ရှိတယ်။ ကောလဟာလတွေကိုမဖော်ပြဘူး။ အဲဒီတော့ ဘုရင်ကြီးစေခိုင်းထားတဲ့အတိုင်း စစ်ပွဲသတင်းတွေ အဆက်မပြတ်တင်ပြနေခဲ့တယ်။

တစ်နေ့ဝင်လာတဲ့သတင်းတစ်ပုဒ်က 'ဘုရင်ကြီး . . . . အိမ်ရှေ့မင်းသားစစ်ရှုံးသွားပါပြီ။ စစ်မြေပြင်ကိုစွန့်ပြီးတစ်နေရာကို တိမ်းရှောင်သွားပြီ' ဆိုပြီး သတင်းဝင်လာတယ်။ ဘုရင်ကြီးကလည်းမယုံရဲသေးဘဲ သေချာအောင်ဆိုပြီး ထပ်ခါတစ်လဲလဲသတင်းယူပြီး ပြန်လည်သတင်းပို့ခိုင်းတယ်။ သတင်းသမားတွေ စုံစမ်းလိုက်တိုင်း စစ်ရှုံးသွားပြီဆိုတဲ့သတင်းပဲရတယ်။ အဲဒါကိုပဲဘုရင်ကြီးကိုထပ်ခါတစ်လဲလဲ ဆက်သနေတော့ နောက်ဆုံး ဘုရင်ကြီးလည်းဝမ်းနည်းပက်လက်ဖြစ်ပြီး လက်ခံလိုက်ရတယ်။ ဒီသတင်းကိုဘုရင့်ကြင်ယာတော်ကိုသွားပြောတော့ ကြင်ယာတော်က 'ဘုရင်ကြီးပြောတာမဖြစ်နိုင်ဘူး။ သေချာလည်း ပြန်စုံစမ်းခိုင်းကြည့်ပါဦး' ဆိုပြီး ဘုရင်ပြောတဲ့စကားကို ငြင်းလိုက်တယ်။ ဘုရင်ကြီးကလည်း အကြိမ်ကြိမ် ကြင်ယာတော်ကိုရှင်းပြတယ်။ 'မင်းရဲ့သားတော်မောင် စစ်ရှုံးသွားပြီ။ အခုခြေရာပျောက်ပြီးစစ်မြေပြင်က တိမ်းရှောင်သွား ပြီ' ဆိုပြီးထပ်ခါတစ်လဲလဲရှင်းပြတိုင်း ကြင်ယာတော်က 'လုံးဝမဖြစ်နိုင်ဘူး၊ သေချာပြန်စုံစမ်းခိုင်းပါဦး' ဆိုပြီးဘုရင်ကြီးရဲ့စကားကိုငြင်းဆန်နေတော့တယ်။

အဲဒါနဲ့ ဘုရင်ကြီးလည်းကြင်ယာတော်ပြောတဲ့အတိုင်း ပြန်စုံစမ်းခိုင်းတော့ဘာမှထူးထူးခြားခြား သတင်းမရဘူး။ ယခင်သတင်း ပဲပြန်ရတယ်။ အဲဒါကိုကြင်ယာတော်ကလုံးဝလက်မခံပဲ ခါးခါးသီးသီးကို ငြင်းနေတယ်။ နှစ်ရက်သုံးရက်လောက် စိတ်ဒုက္ခရောက်နေ တော့တယ်။

နောက်သုံး နှစ်ရက်၊ သုံးရက်ကြာပြီးတော့ ဘုရင်ကြီးဆီ သတင်းအသစ်တစ်ခုတက်လာတယ်။ 'ဘုရင်ကြီး . . . . အိမ်ရှေ့မင်းသား ရန်သူတွေကိုချေမှုန်းပြီးတော့ အောင်လံလွှင့်ပြီး ပြန်လာနေပါပြီ။ ယခင်ပို့ခဲ့တဲ့သတင်းတွေက အမှားတွေဖြစ်ပါတယ်'ဆိုတဲ့သတင်းပဲ။ ဒီသတင်းကိုလည်းကြားရော၊ ဘုရင်ကြီးခမျာဝမ်းသာရမလို၊ ဒေါသထွက်ရမလို၊ အံ့ဩရမလိုဖြစ်နေတော့တယ်။ ဝမ်းသာရတာက သားတော်မောင် စစ်အောင်နိုင်တယ်ဆိုတာကြောင့်၊ ဒေါသထွက်ရတာက အစိုးရပိုင်သတင်းဌာနကနေသတင်းအမှားတွေလွှင့်လို့၊ အံ့ဩရတာက ကြင်ယာတော်က ယခင်သတင်းကိုလက်မခံပဲ ခါးခါးသီးသီးငြင်းဆန်နေလို့ ဘုရင်ကြီးက အဲဒီသောက၊ ဒေါသတွေနဲ့ကြင်ယာတော်ဆီကြွသွားတယ်။ ပြီးတော့ဘာပြောလဲဆိုတော့ 'မင်းပြောတဲ့အတိုင်းအရင် သတင်းမှားသွားပြီကွ၊ အခုမင်းသားအောင်လံလွှင့်ပြီး နေပြည်တော်ပြန်လာနေပြီတဲ့' ငါ့ဆီ အရင် သတင်းမှားတွေ ပို့ခဲ့တဲ့သူတွေကိုတော့ငါ အပြစ်ပေးရလိမ့်မယ်။

ဒါပေမယ့် သူတို့ကိစ္စကိုငါနောက်မှရှင်းမယ်။ အခုငါအရင်သိချင်တာက မင်းကိစ္စပဲ။ မင်းဒီလောက်ခိုင်လုံတဲ့သတင်းတစ်ပုဒ်ကိုဘာဖြစ်လို့ ခါးခါးသီးသီးငြင်းရတာလဲ။ အခုမင်းငြင်းသလိုပဲ ဒီကိစ္စကလည်းတကယ်ဖြစ်လာတယ်။ မင်းဒီကိစ္စနဲ့ပတ်သက်ပြီး ဘာများဖုံးကွယ်ထားတာရှိလို့လဲ၊ ငါ့ကိုမှန်မှန်ဖြေစမ်းကွာ'ဆိုပြီး ဘုရင်ကြီးကကြင်ယာတော်ကို အကျပ်ကိုင်လိုက်တယ်။

အဲဒါနဲ့ကြင်ယာတော်ကလည်း . . . .

'ဘုရင်ကြီးဒီကိစ္စဟာ ကျွန်မနဲ့အလ္လာဟ်နဲ့ပဲသိတဲ့ကိစ္စတစ်ခုဖြစ်တယ်။ ဒါကိုကျွန်မဘယ်သူကိုမှမပြောပြဘူးဆိုပြီး ရည်ရွယ်ထားတာ။ အခု ဘုရင်ကြီးအကျပ်ကိုင်လို့ ပြောပြရတော့မယ်။ ဘုရင်ကြီး . . . . ကျွန်မ ဒီကလေးကိုမွေးကတည်းက နို့တိုက်တိုင်း၊ နို့တိုက်တိုင်း အမြဲတမ်း ဝုဇူလုပ်၊

နှစ်လ်နှစ်ရကအသ်ဖက်ပြီးတိုက်လေ့ရှိတယ်။ အဲဒီတော့ ကျွန်မရဲ့ယုံကြည်ချက်၊ ကျွန်မရဲ့ခံယူချက်ကဘာလဲဆိုတော့ ကျွန်မဒီပုံ ဒီနည်းနဲ့ပျိုးထောင်ပေးထားတဲ့ကလေးဟာဘယ်တော့မှ စစ်ရှုံးစရာအကြောင်းမရှိဘူး။ စစ်ပွဲကနေစွန့်ခွါထွက်ပြေးစရာအကြောင်းမရှိဘူး။ စစ်ပွဲကနေသူရဲကောင်းအဖြစ်နဲ့ အောင်လံလွှင့်ပြီးပြန်လာရင်လာ၊ မလာရင်ရှဟီးဒ်အဖြစ်နဲ့စစ်ပွဲမှာကျဆုံးသွားမယ်ဆိုတာကိုပဲ ကျွန်မနှလုံးသားကလက်ခံထားတဲ့အတွက်ကြောင့် ဘုရင်ကြီးပြောတဲ့စကားကို ရဲရဲဝံ့ဝံ့ငြင်းဆန်ခဲ့ရခြင်းဖြစ်တယ်' လို့ကြင်ယာတော်ကပြောကြားလိုက်တယ်။

လေးစားအပ်တဲ့ ဆရာသမားများခင်ဗျား . . . . ဒီကြင်ယာ တော်ဟာဘာကြောင့်ဒီလိုပြောင်မြောက်တဲ့ စွမ်းရည်တွေပြသ နိုင်ခဲ့တာလဲ၊ အခြားမဟုတ်ပါဘူး။ ဒီမပ်ကသစ်ရဲ့ကျေးဇူးကြောင့်။ သူရဲ့လက်ဦးဆရာကောင်းထားခဲ့လို့။ သူ့ရဲ့အခြေခံအုတ်မြစ်ခိုင်ထားခဲ့လို့ပါ။ မပ်ကသစ်မှာဖတ်နေတဲ့ကလေးတိုင်းကိုသင်ပေးပါ။ ဘယ်တော့မှအလ္လာဟ်ကိုမေ့ပြီးအလုပ်မလုပ်ပါနဲ့။ ဘာကိစ္စပဲလုပ်လုပ်၊ အလ္လာဟ်ချစ်စိတ်၊ အလ္လာဟ်ကြောက်စိတ်နဲ့လုပ်ခိုင်းပါ။ အမြဲတမ်းအလ္လာဟ်နဲ့အဆက်အသွယ်ထားခိုင်းပါ။ ကလေးတွေရဲ့အသက်အရွယ်တွေနဲ့ လိုက်ဖက်မယ့်စွန္နသ်တော်ကိုလိုက်နာကျင့်သုံးခိုင်းပါ။ ဒီကိစ္စတွေကို ဘယ်လို ဆရာတွေက လုပ်ပေးနိုင်မှာလဲ။ အဲဒီလို ပင်ကိုယ်အရည်အချင်းတွေရှိတဲ့ဆရာ တွေပဲလုပ်ပေးနိုင်မယ်။

နဂိုမရှိရင်နဂိုင်းလည်းထွက်မှာမဟုတ်ဘူး။ ဆရာကလခစားဖြစ်နေမယ်။ ဘာခံစားချက်မှမရှိ၊ ဘာဦးတည်ချက်၊ ဘာရည်ရွယ်ချက်မှမရှိဘူး။ ဝမ်းတစ်ထွာအရေးပဲအတွေးအာရုံထဲမှာရှိနေမယ်ဆိုရင် ဒီကလေးလည်းမတိုးတက်ဘူး။ ဒီဆရာလည်းမတိုးတက်ဘူး။ ဒီဝန်းကျင်လည်းဘာမှပြောင်းလဲလာနိုင်စရာ အကြောင်းမရှိဘူး။

သူတော်စင်အပေါင်းတို့ခင်ဗျာ . . . . ကျွန်တော်တောင်အာဖရိကနိုင်ငံကို ခဏခဏခရီးသွားဖြစ်ပါတယ်။ သူတို့နိုင်ငံမှာရှိတဲ့ မွတ်စ်လင်မ်ဦးရေဟာ နှစ်ရာခိုင်နှုန်း၊ သုံးရာခိုင်နှုန်းထက်မပိုပါဘူး။ ဒါပေမယ့် သူတို့နိုင်ငံက မွတ်စ်လင်မ်အရေးတာဝန်ရှိပုဂ္ဂိုလ်တွေရဲ့စွမ်းဆောင်ချက်က အံ့မခန်းကိုတွေ့ခဲ့ရပါတယ်။ အဲဒီပုဂ္ဂိုလ်တွေအနေနဲ့ နိုင်ငံအတွင်းမှာရှိတဲ့ မွတ်စ်လင်မ်ရင်သွေးငယ်တွေရဲ့ မပ်ကဲသဗ်ပညာရေးနဲ့ပတ်သက်ပြီး အစွမ်းကုန်ကြိုးစားဆောင်ရွက်ချက်တွေဟာ စံတင်လောက်ပါတယ်။ တစ်နိုင်ငံလုံး အတိုင်းအတာနဲ့မပ်ကဲသဗ်တွေ တည်ထောင်ထားကြတယ်။ တော်တော်များများနေရာတွေမှာ အစိုးရစာသင်ကျောင်း အဆောက်အဦတွေကို ငှားရမ်းပြီးမပ်ကဲသဗ်ကျောင်းတွေဖွင့်ထားကြတယ်။ မွတ်စ်လင်မ်ကလေးတွေဟာ မနက်ပိုင်းကနေနေ့လည်နှစ်နာရီအထိ ခေတ်ပညာတွေကို သင်ယူကြရပြီး အဲဒီနောက်ပိုင်းနှစ်နာရီ၊ သုံးနာရီခန့် မပ်ကဲသဗ်ပညာကိုပါ သင်ယူနိုင်အောင်တာဝန်ရှိသူတွေက စီမံပေးထားတယ်။ ပြီးတော့သူတို့ရဲ့ မပ်ကဲသဗ်သင်ရိုးညွှန်းတမ်းဟာ(၁၂)နှစ်တောင်ရှိတယ်။

ကလေးခေတ်ပညာသူငယ်တန်းစဖတ်တာနဲ့ မပ်ကဲသဗ်ပညာလည်းသူငယ်တန်းကနေ စသွားတယ်။ အဲဒီလိုပဲခေတ်ပညာပထမတန်းရောက်ရင် မပ်ကဲသဗ်ပညာလည်းပထမတန်း၊ အဲဒီလိုနဲ့ နောက်ဆုံးခေတ်ပညာ(၁၂)တန်းရောက်မှ မပ်ကဲသဗ်ပညာလည်း (၁၂)တန်းအောင်မြင်ကြတယ်။ ပြီးတော့အဲဒီနိုင်ငံက မွတ်စ်လင်မ်တွေရဲ့ အခြေအနေကို ကျွန်တော်အတွင်းကျကျ လေ့လာခွင့်လည်းရခဲ့တယ်။ မွတ်စ်လင်မ် ဦးရေကနှစ်ရာခိုင်နှုန်း၊ သုံးရာခိုင်နှုန်းခန့်သာရှိပေမယ့် ဒီးန်ရဲ့အဓိကလိုအပ်ချက်တွေအားလုံးကို ဖြည့်ဆည်းပေးနေတာတွေ့ခဲ့ရတယ်။ တောင်အာဖရိကတိုက်မှာရှိတဲ့ နိုင်ငံတွေကိုမဆိုထားနှင့်။ ကျွန်တော့်အမြင်အရ ပြောရရင်ကမ္ဘာတစ်ခုလုံးမှာ ဒီးန်ခိဒ်မသ်အလုပ်ဆုံးပုဂ္ဂိုလ်တွေလို့မြင်တယ်။ ဘာသာရေးကျောင်းတွေ အနေအထားအရပဲကြည့်ကြည့်၊

ခါနဲကာဟ်တွေအနေအထားအရပဲကြည့်ကြည့်၊ သင်္ချ်လီးဂ်လုပ်ငန်းတွေ အနေအထားအရပဲကြည့်ကြည့်၊ အခြားသာသနာရေး အခန်းကဏ္ဍ အားလုံးမှာ အဲဒီကပုဂ္ဂိုလ်တွေ ထိပ်တန်းအဆင့်ကနေ စီမံဆောင်ရွက်နေကြ တာကိုတွေ့ခဲ့ရတယ်။ အဲဒါတွေအားလုံး သူတို့ဆီမှာဖြစ်မြောက် အောင်မြင်နေရတဲ့အရင်းအမြစ်က ဘာလဲဆိုတော့မပ်က်သဲဗ်ပဲ။ အဲဒီ မပ်က်သဗ်တွေရဲ့ အကျိုးကျေးဇူးတွေကြောင့် သူတို့နိုင်ငံရဲ့ဘာသာရေးဟာ ကနေ့အထွတ် အထိပ်ကိုရောက်နေရခြင်းဖြစ်တယ်။

ဟဇ်ရသ်ရှိုက်ခွတ်လ်ဟင်းနဒ်(ﷺ) မာလ်တာအကျဉ်းထောင်က နေ သုံးနှစ်ခွဲအကျဉ်းကျပြီးပြန်လာတော့ ဒါရုလ်အုလူးမ်ဒီယိုဗန်ဒ် ကျောင်းကြီးမှာ အိန္ဒိယနိုင်ငံရဲ့အာလင်မ်တွေကိုဖိတ်ကြားပြီး အခမ်းအနား တစ်ရပ်ကျင်းပခဲ့တယ်။ အဲဒီအခမ်းအနားမှာ ဆရာကြီးဘာအမိန့်ရှိသလဲ ဆိုရင် 'ငါထောင်ထဲမှာ သုံးနှစ်ခွဲနေခဲ့ရတယ်။ အဲဒီကာလမှာငါ့အနေနဲ့ ဒီအိန္ဒိယနိုင်ငံက မွတ်စ်လင်မ်တွေရဲ့တိုးတက်မှု၊ ကျဆင်းမှုတွေရဲ့ အဓိကသော့ချက်ဘာလဲဆိုတာသိလိုက်ရတယ်။ အဲဒါဘာလဲဆိုတော့ ဒီ အိန္ဒိယနိုင်ငံက မွတ်စလင်မ်တွေရဲ့အောင်မြင်မှုဟာ သူတို့ရင်သွေးငယ်တွေရဲ့ မပ်က်သဗ်ပညာရေးမှာပဲရှိတယ်။ အဲဒီတော့ကျွန်တော်တို့ အားလုံး ဒီကနေ့ကနေစပြီး ဒီရင်သွေးတွေရဲ့ပညာရေးအတွက်တစိုက်မတ်မတ် ကြိုးပမ်းဆောင်ရွက်ကြပါလို့ပြောကြားလိုပါတယ်။

ဆရာသမားများခင်ဗျား . . . . ဆရာတို့လုပ်နေတဲ့ အလုပ်ကိုတန်ဖိုးထားပါ။ ဒီအလုပ်သည်သာလျှင် အကြီးအကျယ်ဆုံး အလုပ်လို့ခံယူပါ။ ဒီကိစ္စနဲ့ပတ်သက်ပြီး ဆွေးနွေးနေပါ။ တိုင်ပင်နေပါ။ အမြင်ဖလှယ်နေပါ။ တိုးတက်မှုတွေကိုမှတ်တမ်းတင်ပါ။ ကျဆင်းမှုတွေကို အဖြေရှာပြီးပြုပြင်နေပါ။ မိမိတို့ရဲ့နီယသ်တွေကို အခိုင်အမာပြုလုပ်ပြီး နေ့မအား၊ ညမနား၊ အရိပ်မသိ၊ အပူမသိ၊ နေပူမရှောင်၊ မိုးရွာမရှောင် ဦးတည်ချက်၊ ရည်ရွယ်ချက်၊ ရည်မှန်းချက်တစ်ခုတည်းနဲ့ ကြိုးစား

အားထုတ်သွားကြမယ်ဆိုရင် အင်န်ရှာဟ်အလ္လာဟ် မလွဲမသွေ အောင်မြင်နိုင်မှာဖြစ် တယ်။ တကယ့်ကိုအရည်အချင်းမှီတဲ့သားကောင်းရတနာတွေ၊ ထွန်းတောက်အောင်မြင်မယ့် ရင်သွေးငယ်တွေနဲ့နောင်လာမယ့် လူ့ဘောင်အဖွဲ့အစည်းဝန်းကျင်ကို ပြုပြင်ပြောင်းလဲပေးနိုင်မှာဖြစ်တယ်လို့ ပြောကြားရင်းနဲ့ နိဂုံးချုပ်အပ်ပါတယ်။

وآخر دعوٰينا ان الحمد لله رب العالمين

# အလ္လာဟ်ကိုယ်တိုင်ထိန်းသိမ်းတဲ့ ကုရ်အာန်ကျမ်းတော်မြတ်

၁၃-၄-၂၀၁၂ (သောကြာနေ့)ဟောကြားသည်။

الحمد لله نحمده و نستعينه و نؤمن به و نتو كل عليه و نعو ذ بالله من شرور انفسنا و من سيئات اعمالنا من يهده الله فلا مضل له و من يضلله فلا هادى له و نشهد ان لااله الا الله وحده وحده وحده لاشريك له و نشهد ان سيدنا وسندنا و مولانا محمدا عبده ورسوله الذى ارسله بشيرا و نذيرا وداعيا الى الله باذنه وسراجا منيرا امابعد فاعوذ بالله من الشيطان الرجيم بسم الله الرحمن الرحيم إِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَإِنَّا لَهُ لَحَافِظُونَ ۝٩

လေးစားအပ်ပါတဲ့ အာလင်မ်သာသနာ့ပညာရှင်များ၊ လေးစားအပ်တဲ့သင်တန်းဖြစ်မြောက်ရေး အတွက်စီမံခန့်ခွဲတဲ့အကြီးအကဲများ၊ ချစ်ခင်လေးစားအပ်တဲ့အီမာန်ရှင်များနဲ့ ရပ်ဝေးရပ်နီးမှကြွ ရောက်လာကြတဲ့ မပ်က်သဗ်ဆရာများခင်ဗျာ. . . . .

ကျမ်းမြတ်ကုရ်အာန်ကိုအကြောင်းပြုပြီး ကျွန်တော် ခင်ဗျားတို့နဲ့ တွေ့ဆုံခွင့်ရတာကိုဝမ်းသာပီတိဖြစ်ပါတယ်။ မနေ့ကလည်း ခင်ဗျားတို့ထံ အခစားဝင်ပြီး သာသနာ့ စကားတွေတင်ပြခဲ့ပါတယ်။ ကျမ်းမြတ်ကုရ်အာန်ရဲ့ ခိဒ်မသ်ကိုဘယ်လောက်ပဲဖြစ်ဖြစ်၊ ဘယ်ပုံစံနဲ့ပဲဖြစ်ဖြစ်၊ လုပ်ခွင့်ရပါစေ၊ အဲဒါဟာအရှင်မြတ်ရဲ့အလွန်ကြီးမားတဲ့ ကျေးဇူးတော်ဆုလာဘ်တော်ကြီး ဖြစ်တယ်ဆိုတာ မှတ်ယူထားပါ။ ခင်ဗျားတို့ရှေ့မှာ ကျွန်တော် ကျမ်းမြတ်ကုရ်အာန်ရဲ့ အာယသ်တော်တစ်ပိုဒ်ကို ဖတ်ရွတ်ပြခဲ့ ပါတယ်။ ခင်ဗျားတို့တစ်တွေဟာ အာလင်မ်သာသနာ့ပညာရှင်တွေဖြစ်ကြပါတယ်။ အာရဗီဘာသာ

စကားရဲ့ (Grammar)သဒ္ဒါကို ဂဃနဏ နားလည်သဘော ပေါက်တဲ့သူ တွေဖြစ်ကြပါတယ်။ ဒီအာယသ်တော်ထဲမှာ အလ္လာဟ်အရှင်မြတ်က အလွန်လေးနက်မှုကိုဖော်ကျူးတဲ့စကားလုံးတွေကို သုံးနှုန်းထားပါတယ်။

إِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَإِنَّا لَهُ لَحَافِظُونَ ۝٩

"ကေန်မုချ ဤကျမ်းမြတ်ကုရ်အာန်ကို ငါအလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ကပဲ ချပေးသနားတော်မူခဲ့တယ်။ ထို့ပြင်မုချကေန်ငါအလ္လာဟ် အရှင်မြတ်ကိုယ်တော်တိုင်ပဲ ကျမ်းမြတ် ကုရ်အာန်ကိုထိန်းသိမ်း စောင့်ရှောက် တော် မူမယ်။" ကမ္ဘာလောကမှာရှိတဲ့ မည်သည့် ကျမ်းပင်ဖြစ်ပါစေ၊ မည်သည့်စကားနှင့် ပင်ဖြစ်ပါစေ၊စိတ်ဝင်စားဖွယ်၊ နှစ်သက်ဖွယ် ကျမ်းစာအုပ်ပဲဖြစ်ပါစေ၊၎င်းကျမ်းစာအုပ်များကို တစ်ကြိမ်၊နှစ်ကြိမ်၊ သုံးလေးငါးကြိမ်လောက်ဖတ်လိုက်ရင်တော့ ငြီးငွေ့သွားမှာအမှန်ပါပဲ။

သို့သော် ကျွန်တော်တို့တစ်တွေ (မွတ်စ်လင်မ်)တွေဟာ ကျမ်းတော် မြတ် ကုရ်အာန်ကို နှစ်ပေါင်းများစွာကပင် ဖတ်ရွတ်နေကြပါတယ်၊ ငြီးငွေ့ ခြင်း မရှိတာကို ခင်ဗျားတို့သုံးသပ်မိကြမယ် လို့ထင်ပါတယ်။ ဥပမာတစ်ခု အနေနဲ့ စူရာဟ်ဖါသိဟာဟ်ကိုတင်ပြရမယ်ဆိုရင် ကျွန်တော်တို့တစ်တွေဟာ စူရာဟ်ဖါသိဟာဟ်ကို နမားဇ်တိုင်းရဲ့ ရကာအသ်တိုင်းမှာ ဖတ်နေကြပါတယ်။ ငြီးငွေ့ခြင်းမရှိကြပါဘူး။ ခင်ဗျားတို့ဟာ အာလင်မ်သာသနာ့ ပညာရှင်များ ဖြစ်ကြပါတယ်။

စူရာဟ်ဖါသိဟာဟ်ကို **"စဗအာဟ်မစာနီ"** လို့ခေါ်ပါတယ်။ အလိုသ ဘောမှာနှစ်ကြိမ် ကျရောက်ခြင်းခံရတဲ့ အာယသ်တော်(၇)ပိုဒ်လို့ အဓိပ္ပါယ် ရပါတယ်။ ကျမ်းမြတ်ကုရ်အာန်ထဲမှာ အလွန်မွန်မြတ်ပြီးအလွန်ထူးခြားတဲ့ စူရာဟ်ဖြစ်ပါတယ်။ဤဖါသိဟာဟ်ကို ဖဂျ်ရ်စွန္နသ်(၂)ရကာအသ်စလုံးမှာ၊ ဇိုဟ်ရ်ဖရ်ဇ်နမားဇ်အလျှင် ဖတ်ရသောစွန္နသ်(၄)ရကာအသ်နှင့် ဇိုဟ်ရ်ဖရ်ဇ်အပြီး ဖတ်ရသောစွန္နသ်(၂)ရကာအသ်၊ မဂ်ရိဗ်နမားဇ်အပြီး စွန္နသ်(၂)ရကာအသ် စတဲ့ရကာအသ်တိုင်းမှာဖတ်နေကြပါတယ်။ အဆွရ်အလျှင်နှင့် အိရှာအ်အလျှင် ဖတ်ရသော စွန္နသ်ရကာအသ်တိုင်းမှာလည်း စူရာဟ်ဖါသိဟာဟ် ကိုဖတ်ရ

ပါတယ်။ စဉ်းစားရမည့်အချက်က စူရာဟ်ဖါသိဟတ်ကို အကြိမ်ကြိမ်ဖတ်နေကြလည်းလုံးဝမငြီးငွေ့ကြဘူး။ တစ်ဦးတည်းဖတ်လည်း စူရာဟ်ဖါသိဟတ်ကို ဖတ်ရတယ်။ နဖ်လ်နမားဇ်တွေရဲ့ရကအသ် တိုင်းမှာလည်း စူရာဟ်ဖါသိဟတ်ကိုဖတ်ရတယ်။ အချို့ကတော့ဖတ်နေတာ အနှစ်(၂၀)ရှိပြီ။ အချို့ကတော့အနှစ်(၄၀)၊(၆၀)ရှိပြီ။ သို့သော်ငြီးငွေ့မှုလုံးဝမရှိတာကို သုံးသပ်ကြမိမယ်လို့ မျှော်လင့်ပါတယ်။

အလ္လာမဟ်အိက်ဗါးလ်ဆိုတာ အလွန်ကျော်ကြားတဲ့ ကဗျာစာဆိုဆရာကြီးတစ်ပါးဖြစ်တယ်။ သူ့ရဲ့ကဗျာတွေဟာ အလွန်နှစ်သက်ဖွယ်၊ စိတ်ဝင်စားဖွယ်ကောင်းတယ်။ သို့သော်သူ့ရဲ့ကဗျာစာအုပ်ကို (၄၊၅၊၆၊)ကြိမ်ဖတ်ပြီးနောက် ငြီးငွေ့သွားမှာဖြစ်တယ်။ အဲဒီလိုဘဲအလွန်အရသာရှိတဲ့၊ စိတ်ဝင်စားဖွယ်ကောင်းတဲ့ စာအုပ်၊စာပေတွေကို (၁)ကြိမ်၊(၂)ကြိမ်၊(၄၊၅)ကြိမ်လောက်ဖတ်မယ်ဆိုရင် ငြီးငွေ့သွားပါလိမ့်မယ်။ သို့သော်ကျမ်းမြတ်ကုရ်အာန်ကို ဘယ်နှစ်ကြိမ်ပဲ ဖတ်ဖတ်၊ ထပ်ခါတစ်လဲလဲ ဖတ်ဖတ်၊ငြီးငွေ့မှုမရှိတဲ့အပြင် ဖတ်သလောက်အရသာခံစားကြရပါတယ်။ ဒါဟာကျမ်းမြတ်ကုရ်အာန်ရဲ့အလွန်ကြီးမားတဲ့ မုအ်ဂျိဇဟ် တစ်ရပ်ဖြစ်တယ်။ ကျမ်းမြတ်ကုရ်အာန်ရဲ့ထူးမြတ်ပြီးအလွန်ပြည့်စုံတဲ့ကျမ်းဖြစ်တယ်ဆိုတဲ့အထောက်အထားတစ်ရပ်ဖြစ်ပါတယ်။

အချို့သူတော်စင်တွေနေ့စဉ် ကျမ်းတော်မြတ်ကုရ်အာန်တစ်အုပ်လုံး "ခသမ်" ဖတ်လေ့ရှိကြပါတယ်။ အချို့သူတွေ နေ့စဉ်(၁၅)ပါရာဟ်ဖတ်တဲ့အလေ့ရှိကြတယ်။ အချို့သူတွေ နေ့စဉ်(၅)ပါရာဟ် ဖတ်လေ့ရှိတယ်။ အထူးသဖြင့် ကျွန်ုပ်၏ဖခင် (ဟဇရသ်မော်လာနာ မုဟမ္မဒ်စလီမ္မလ္လာဟ်ခါန်းဆာ့ဟိဗ် ဒါမသ်ဘရ်ကားသုဟူ) သခင်ကြီးသည် ကျောင်းများ၊ စီမံခန့်ခွဲမှုကိစ္စရပ်များနှင့် နေ့စဉ်သင်ခန်းစာပို့ချမှုများရဲ့ရှုပ်ထွေးမှု မအားလပ်တဲ့ကြားက နေ့စဉ် ကျမ်းမြတ်ကုရ်အာန်(၅)ပါရာဟ် စွဲစွဲမြဲမြဲ ဖတ်ခဲ့တာ အခုဆိုရင် အသက်(၉၀)ကျော်ပြီး အိုမင်းရင့်ရော်မှု၊ နာမကျန်းမှု တွေကြားက စွဲမြဲစွာ ကျမ်းမြတ်ကုရ်အာန် ဖတ်ရွတ်သည်ကို မည်သည့် အရာကမှ အတားအဆီး၊ အဟန့်အတား မပြုနိုင်ပါဘူး။ (ကျွန်တော်ကိုယ်တိုင် နေ့စဉ် မျက်ဝါးထင်ထင်တွေ့မြင်နေရပါတယ်။) စဉ်းစားသုံးသပ်ကြည့်ပါ။ အချို့ကနေ့စဉ် တစ်ခသမ်၊

အချို့က(၁၅)ပါရာဟ်၊ အချို့က(၅)ပါရာဟ်၊ ဖတ်ကြတယ် ဆိုတော့ သူတို့နှလုံးသားအတွင်းထဲမှာ အရသာအာရုံခံစားမှု ဘယ်လောက်တိုးပွါးမှုရရှိနေသလဲ။ အလ္လာဟ်အရှင်မြတ်နဲ့ဆက်သွယ်မှု ဘယ်လောက်မြင့်မားမှု ရရှိနေသလဲ ဆိုတာကို ခန့်မှန်းနိုင်ပါတယ်။

ဒီလိုကျမ်းတော်မြတ်ကုရ်အာန်သိလာဝသ်လုပ်ဖို့ သောင်ဝ်ဖီးက် ရရှိခြင်းဟာလည်း အလ္လာဟ်အရှင်မြတ်ဘက်က ကျမ်းတော်မြတ်ကုရ်အာန်ကို ထိန်းသိမ်းစောင့်ရှောက်တဲ့နည်းလမ်း တွေထဲကနည်းလမ်းတစ်ခု၊ ပုံစံတစ်ခုဖြစ်ပါတယ်။ ဟာဖိဇ်ကျောင်းသားများကို ဥပမာတစ်ခုအနေနဲ့ လေ့လာသုံးသပ်ကြည့်ပါ။ မနက် ဖဂျရ်နမားဇ်ပြီးတာနဲ့ ဆရာက စာနားထောင်တယ်။ အိရှာအ်နမားဇ်ပြီးတဲ့အထိဘဲ။ တစ်ချို့နေရာမှာဆိုရင် အိရှာအ်နမားဇ်ပြီးတောင် (၁၀)နာရီ၊(၁၁)နာရီအထိ စာနားထောင်တယ်။

တစ်ကမ္ဘာလုံးမှာ ဖဂျရ်နမားဇ်ပြီးတာနဲ့ ဆရာတွေလာကြ၊ ကုရ်အာန်သင်ကြတယ်။ ကုရ်အာန်ကျက်ခိုင်းကြတယ်။ အိရှာအ်နမားဇ်ပြီးနောက် (၁၀)နာရီ၊(၁၁)နာရီအထိ ဆရာတွေစာသင်တယ်။ တစ်ကမ္ဘာလုံးမှာဒီလိုအလုပ်မျိုး ဘယ်အလုပ်မှာမှ မတွေ့ဖူးပါဘူး။ ဒါဟာလည်း ကျမ်းမြတ်ကုရ်အာန်ကို အလ္လာဟ်အရှင်မြတ်စောင့်ရှောက်ခြင်းရဲ့ ပုံစံတစ်ခုဖြစ်ပါတယ်။ မအ်စူးမ် အပြစ်မဲ့ကလေးတွေ၊ အရွယ်မရောက်သေးတဲ့ကလေးငယ်တွေ ကျမ်းမြတ် ကုရ်အာန်ဖတ်နေကြတယ်။ ကျက်မှတ်နေကြတယ်။ အလ်ဟမ်ဒုလိလ္လာဟ် ဒီကုရ်အာန်ကျမ်းမြတ်ရဲ့ခိဒ် မသ်၊မဲဟ်နသ်ကြိုးပမ်းမှုတွေရဲ့ဗရ်ကသ်နဲ့ တိုးတက်မှုတွေ အများကြီးဖြစ်နေတာကို တွေ့ရလိမ့်မယ်။ ဒီဟာဖိဇ်ဆွာဟိဗ်များကိုအကြောင်းခံပြီး ကျမ်းမြတ်ကုရ်အာန်(မဟ်ဖူးဇ်)လုံခြုံစွာ ထိန်းသိမ်းခံနေရတာကိုလည်း တွေ့ရပါတယ်။ ဟိဖ်ဇ်နဲ့ပတ်သက်ပြီး ကျွန်တော်တို့ရဲ့အကြီးအကဲတွေ လမ်းညွှန်ချမှတ်ထားတဲ့ စည်းကမ်းနည်းလမ်းတွေဟာ အလွန်ဗရ်ကသ်ရှိပါတယ်။ ကျွန်တော်ကိုယ်တိုင် အကြိမ်ကြိမ်စမ်းသပ်ခဲ့ပါတယ်။

ဒီအစီအစဉ်မှာ မပ်က်သဗ်ဆရာတွေရှိသလိုဟိဖ်ဇ် (ဟာဖိဇ်အတန်းသင်တဲ့) ဆရာတွေလည်း ရှိမှာပါ။ ဆရာတို့အထူးသတိပြုရမယ့်အချက်မှာ ဟိဖ်ဇ်ပဲဖြစ်ဖြစ်၊ မပ်က်သဗ်ပဲဖြစ်ဖြစ် ကလေးတွေစာနားထောင် တဲ့အခါမှာ

တစ်လုံး၊တစ်ပါဒမျှအမှား မခံပါနဲ့။ ဒါကတော့သေးငယ်တဲ့ အမှား တစ်ခုပဲလို့ လျှော့ပေးလိုက်မယ်ဆိုရင် လွှတ်ပေးလိုက်မယ်ဆိုရင် ဆရာ့အနေနဲ့ အလွန်ကြီးမားတဲ့ အမှားကြီးကို လုပ်လိုက်တာဘဲဆို တာအထူးမှတ်ထားပါ။ သင်ခန်းစာမှာ–၄လိုင်း၊ ၅လိုင်းပဲ ဖြစ်ဖြစ်၊ ၃၊၄၊၅အာယသ်ပဲဖြစ်ဖြစ် ရာခိုင်နှုန်း အပြည့်အဝမှန်ကန်ရမယ်။ ရာနှုန်းပြည့်ဌာန်ကရိုဏ်း ကျကျ ဖတ်နိုင်ရမယ်။

အလ္လာဟ်မလုပ်ပါစေနဲ့ (အလ္လာဟ်ထိန်းသိမ်းတော်မူပါစေ) ဆရာသမားတွေဟာ ကလေးတွေရဲ့ အနည်းငယ်မှားယွင်းမှုကို ပြုပြင်ပေးခြင်း မရှိဘဲ ပေါ့ပေါ့တန်တန်မှတ်ယူကာ "ဒါကတော့ မပြောပလောက်တဲ့ အမှားအယွင်းလေးပဲ"လို့ လျှော့ပေးလိုက်မယ်ဆိုရင် ကျောင်းသားတွေကို ပညာရေးနဲ့ပတ်သက်ပြီး အလွန် "ဇွလ်မ်" ညှဉ်းပန်းလိုက်ရာရောက်သွားတာကို ဆရာများအထူးသတိပြုသင့်ပါတယ်။

ကျောင်းသားတွေမှားယွင်းနေတာကို ဆရာတွေကပြုပြင် မပေးတဲ့အတွက်ကြောင့် အဲဒီအမှားဟာ သက်တမ်းတစ် လျှောက်လုံး စွဲကပ်သွားမှာ ဖြစ်တယ်။ ဒါကြောင့် သေးငယ်တဲ့အမှားအယွင်း ဘဲဖြစ်ပါစေ၊ ချက်ချင်းပြုပြင်ပေးသင့်တယ်။ အဲဒီနည်းစနစ်ကတော့ ပထမတစ်ကြိမ် မှန်မှန် မဖတ်ပြနိုင်ရင် ဒုတိယတစ်ကြိမ် ပြန်ကျက်ခိုင်း ရမယ်။ ဒုတိယတစ်ကြိမ် မှန်မှန်မဖတ်နိုင်ရင် တတိယတစ်ကြိမ် ပြန်ကျက်ခိုင်းရမယ်။ အကြိမ်ကြိမ် မှန်ကန်တဲ့အထိ ကျက်ခိုင်းရမယ်။ သို့သော်အမှားအယွင်းကိုတော့ မည်သည့် နည်း နှင့်မျှ လျစ်လျူရှုကာ အလျှော့ပေးလို့မရဘူး။ အဲဒီလို အကြီးအကဲတွေ လမ်းညွှန်ထားတဲ့ အတိုင်း အမှားအယွင်းမခံဘဲ ကျမ်းတော်မြတ် ကုရ်အာန် အာဂုံဆောင်ထားတဲ့သူဟာ ဘယ်တော့မှ ကျမ်းတော်မြတ်ကုရ်အာန်ကို မေ့မှာမဟုတ်ဘူး။ စနစ်တကျ အာဂုံဆောင်ထားတဲ့ ဟာဖိဇ်ဆပ်ဟာ မော်လဗီကျောင်းတွေမှာ စာဖတ်နေရတယ်။ အိမ်မှုကိစ္စရပ်တွေမှာ အလုပ်တွေ ရှုပ်နေတယ်။ ကုရ်အာန်ကျက်မှတ်ဖို့ အချိန်အများကြီးမရဘူး။ သရာဝီဟ်နမားဇ်ဖတ်ဖို့ လမြတ်ရမ်ဇာန်လည်း နီးကပ်လာပြီ။ မိဘများက သောက ဖြစ်လာတယ်။ ဒီကလေးဖတ်နိုင်ပါ့မလား။ သို့သော် ကျွန်တော်အ ကြိမ်ကြိမ်တွေ့ဖူးတာကတော့ စနစ်တကျ ကုရ်အာန်အာဂုံဆောင်ထားတဲ့ ဟာဖိဇ်ဆပ်ဟာ အိရှာအ်နမားဇ်အလျင် ကုရ်အာန်ကိုအနည်းငယ် ဖွင့်ဖတ်

တယ်။ ပြီးတော့ သရာဝီဟ်နမားဇ်မှာ ကျမ်းမြတ်ကုရ်အာန်တစ်လုံးမှ မထစ်မငေါ့စေဘဲ၊ မမှားယွင်းစေဘဲ ဖတ်ရွတ်တာကို အကြိမ်ကြိမ် တွေ့ကြုံခဲ့ဖူးပါတယ်။ ကျမ်းမြတ်ကုရ်အာန်ဟာ သူ့ရဲ့နှလုံးသားထဲမှာ ပုံနှိပ်ထားသလိုပဲ။ တိတိကျကျရှိနေတယ်။ ဒါဟာကုရ်အာန်ရဲ့ မုအ်ဂျိဇာဟ်ဖြစ်ပါတယ်။ ဒါတွေဟာဆရာသမားတွေရဲ့ စေတနာထားပြီး ပင်ပန်းကြီးစွာ ကြိုးပမ်းထားတဲ့ ကြိုးပမ်းမှုရဲ့ရလဒ်ဖြစ်ပါတယ်။ ဆရာသမားတွေက ဌာန်ကရိုဏ်းကျကျ 'ဟိဖ်ဇ်' ကျမ်းမြတ်ကုရ်အာန် အာဂုံဆောင်နိုင်ရန် သင်ကြားခဲ့လို့ ဖြစ်ပါတယ်။ ဒါ့ကြောင့် ဆရာသမားတွေဟာ အလွန်သတိထားဖို့၊ စေတနာထားဖို့၊ ကြိုးပမ်းဖို့ အလွန်အရေးကြီးပါတယ်။

ကျမ်းမြတ်ကုရ်အာန်ကို ထိန်းသိမ်းစောင့်ရှောက်မယ်လို့ အလ္လာဟ်အရှင်မြတ်က ကတိပြုထားပြီး ဆရာတို့ကို စောင့်ရှောက်မှု အကြောင်းခံအဖြစ် ပြုလုပ်ထားပါတယ်။ သို့သော် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း အထစ်အငေါ့ အမှားအယွင်းမရှိဘဲ ကျမ်းမြတ်ကုရ်အာန်ကို ဖတ်နိုင်အောင် ကျောင်းသားတိုင်းအပေါ်မှာ ဆရာများအထူးကြိုးပမ်းဖို့ လိုအပ်ပါတယ်။ ကျွန်တော်အခုပြောနေတာက ဟာဖိဇ် ကျမ်းမြတ်ကုရ်အာန် အာဂုံဆောင်သူ အတွက်ပဲ မဟုတ်ဘူး။ အကြည့်ဖတ်နေတဲ့ ကျောင်းသား၊ ကျောင်းသူတွေကိုလည်း အမှားအယွင်းတစ်လုံးမှ မဖြစ်စေဘဲ၊ အထစ်အငေါ့ မရှိစေဘဲ၊ တိတိကျကျ ဌာန်ကရိုဏ်းကျကျ သဂျ်ဝီးဒ်နှင့်တကွ ဖတ်နိုင်ရန် သင်ကြားပေးရမယ်။ ကျမ်းတော်မြတ်ကုရ်အာန်ကို အလ္လာဟ်အရှင်မြတ်က ခေတ်အဆက်ဆက်မှာ ထိန်းသိမ်းခဲ့တာကို ခင်ဗျားတို့စဉ်းစားတွေးတောကြည့်မယ်ဆိုရင် ခင်ဗျားတို့အံ့သြသွားလိမ့်မယ်။

စဉ်းစားကြည့်ပါ။ ကမ္ဘာတစ်ခုလုံးမှာ ကျမ်းတော်မြတ်ကုရ်အာန်ကို ပိတ်ပင်ဖို့ကြိုးစားခဲ့ကြတယ်။ စာသင်ကျောင်းတွေမရှိအောင်၊ ပိတ်သွားအောင် အမျိုးမျိုးလုပ်ကြံခဲ့ကြတယ်။ ကြိုးပမ်းခဲ့ကြတယ်။ အာလင်မ်သာသနာ့ ပညာရှင်တွေ မျိုးတုံးသွားအောင် ကန့်သတ်ဖို့အမျိုးမျိုးအဖုံဖုံ ကြိုးစားခဲ့ကြတယ်။

အလ်ဟမ်ဒုလိလ္လာဟ်၊ ကုရ်အာန်နဲ့ ကုရ်အာန်ရဲ့ ခေဒ်မသ်တိုးတက်မြင့်မားလာတာ ကိုတွေ့ရလိမ့်မယ်။ ခင်ဗျားတို့ဒီမှာထိုင်နေကြတယ်။

ခင်ဗျားတို့ရဲ့အကြီးအကဲ၊ ဆရာကြီးတွေလည်း ဒီမှာရှိတယ်။ ခင်ဗျားစဉ်းစား ကြည့်ပါ။ ၁၅နှစ်၊ အနှစ်၂၀ အလျှင်က ဒီလို အခြေအနေမရှိတာကို သုံးသပ်မိပါလိမ့်မယ်။

ကျွန်တော်တို့ ပါကစ္စတာန်နိုင်ငံမှာ (ကျောင်းပေါင်းစုံရဲ့စာရင်းအရ) နှစ်စဉ် ဟာဖိဇ်ကျောင်းသား (၆၅၀၀၀ မှ ၇၀၀၀၀) အထိရှိတယ်။ အဲဒီစာရင်းမှာ ကရာချိမှ နှစ်စဉ် (၁၅၀၀၀မှ၂၀၀၀၀) အထိ ဟာဖိဇ်ဆပ် တွေပါဝင်တယ်။ အဲဒီထဲမှာ ကလေးတိုင်းကို ဟာဖိဇ်လို့မခေါ်ဘူး။ မမှားယွင်းပဲ မထစ်မငြေ့ပဲ ဖတ်ရွတ်နိုင်တဲ့ ကာမိလ်ဟာဖိဇ် ကိုပဲခေါ်တယ်။ ဟာဖိဇ်ပြီးတဲ့ နောက်ပိုင်း တစ်နှစ် ဒေါ်ရ် လုပ်ဖို့အရေးကြီးပါတယ်။ ကျွန်တော်တို့ (ဖွါရူကီယဟ်ကျောင်းတော်ကြီးမှာ) အလွန်တင်းကျပ်တဲ့စည်းကမ်းတစ်ခု သတ်မှတ်ထားတယ်။ ဟာဖိဇ်ပြီးသွားတဲ့ ကလေးဟာ နံနက်ဖွဂျရ် အချိန်မှ အိရှာအ်အထိ အမှားအယွင်းတစ်လုံးမှ မရှိဘဲတစ်ထိုင်တည်းဖတ်ပြရမယ်။ တစ်လုံးမှားသွားခဲ့ရင် နောက်နေ့အစက ပြန်ဖတ်ရမယ်။ အဲဒီလိုနဲ့ အမှားအယွင်းမရှိပဲ တစ်ထိုင်တည်း တစ်အုပ်လုံးဖတ်ပြနိုင်မှ သူ့ကိုဟာဖိဇ်လို့အသိအမှတ်ပြုပြီး ဝိဖါးက်မှာ ဝင်ခွင့်ပြု မှာဖြစ်တယ်။ အဲဒီမှန်မှန်ကန်ကန်ဖတ်နိုင်ဖို့ (၁၅)ရက်ကြာပါစေ။ ရက်(၂၀)ကြာသွားပါစေ၊ တစ်လကြာသွားပါစေ။ အမှားတစ်လုံးမှ မပါဘဲ ဖတ်ပြနိုင်ဖို့ အလွန် အရေးကြီးပါတယ်။ ဒါဟာကျွန်တော်တို့ ဖွါရူကီယဟ် ကျောင်းတော်ကြီးရဲ့ သီးသန့်ပြဌာန်းထားတဲ့ စည်းကမ်းချက်ဖြစ်ပါတယ်။ နှစ်စဉ်စာမေးပွဲမှာ အထက်ကဖော်ပြခဲ့တဲ့အတိုင်း ရာနှုန်းပြည့်တိကျမှန်ကန်ပြီး ဌာန်ကရိုဏ်းကျတဲ့ ဟာဖိဇ်ဆပ်ပေါင်း (၆၅၀၀၀ မှ ၇၀၀၀၀) စာမေးပွဲ ဖြေဆိုတာကို တင်ပြခဲ့ပြီးပါပြီ။ အဲဒီအထဲမှ ကရာချိမှ (၁၅၀၀၀ မှ ၂၀၀၀၀) အထိ ဟာဖိဇ်ဆပ်တွေ ပါဝင်တာကို ဂုဏ်ယူမိပါတယ်။ ကျန်တာကတော့ တစ်နိုင်ငံလုံးက ဟာဖိဇ်ဆပ်တွေဖြစ်ကြတယ်။ ကုရ်အာန်ကိုပိတ်ပင်ရန်၊ ကန့်သတ်ရန်၊ ပပျောက်ရန် ကမ္ဘာတစ်ခုလုံးမှာ ကြိုးစားခဲ့တယ်။ မပ်က်သဗ်ကျောင်းတွေပိတ်ပင်ရန်ကြိုးစားခဲ့ကြတယ်။ ကုရ်အာန်ခေဒ်မသ် လုပ်တဲ့ဆရာသမားတွေကို ချုပ်ချယ်ခဲ့သော်ငြားလည်း ‘အလ်ဟာမ်းဒု လိလ္လာဟ်’ လျော့နည်းသွားသလား။ အလ်ဟာမ်ဒုလိလ္လာဟ် တိုးတက်လာ

တာကိုပဲ မြင်ရပါတယ်။ ကျွန်တော်တို့ ပါကစ္စတန်မှာ ဒေါက်တာ မဟ်မူးဒ်အဟ်မဒ်ဂါဇီ ဆိုတဲ့ ဝန်ကြီးတစ်ပါးရှိခဲ့တယ်။ အာလင်မ်လည်း ဖြစ်တယ်။ သူကိုယ်တိုင်ကျွန်တော့်ကို တိုက်ရိုက်ပြောပြခဲ့တဲ့ သမိုင်းအဖြစ်အပျက်တစ်ခုဖြစ်တယ်။ ကြားမှာ နှစ်ပေါင်း(၇၀)ကျော် တစ်ဆင့်ခံပြန်ပြောသူတစ်ဦးမှ မရှိဘူး။ အနောက်အာရှတိုက်ကို နှစ်ပေါင်း(၇၀)ကျော် ရုရှားနိုင်ငံက ကွန်မြူနစ်ဝါဒနဲ့ ထိန်းချုပ် ခဲ့တယ်။ လွတ်လပ်ရေးရပြီးခါစအချိန်မှာ World Islamic Organization ကမ္ဘာ့ဇဟ်ုအစ္စလာမ်အဖွဲ့အစည်းမှတစ်ဆင့် ဆော်ဒီအစိုးရက ပါကစ္စတန်အာဏာပိုင်များထံသို့ ကြေညာချက်ထုတ်ပြန်ခဲ့တယ်။ "ခင်ဗျားတို့တစ်တွေ ဥဇဘက်ကစ္စတန်နိုင်ငံကိုသွားရောက်ပြီး ဟာဖိဇ် ကျမ်းမြတ်ကုရ်အာန် အာဂုံဆောင်များရဲ့ စာရင်းပြုစုပါ။ ၎င်းဟာဖိဇ် ဆပ်အားလုံးကို ဆော်ဒီအစိုးရရဲ့ထောက်ပံ့ကြေးငွေဖြင့် အွမ်ရာဟ်ပြုလုပ်ရန် မက္ကာဟ်မြို့သို့စေလွှတ်မယ်။ ဟဇရသ်ဒေါက်တာ မော်လာနာမဟ် မူးဒ်အဟ်မဒ်ဂါဇီဆွာဟိဗ် رحمة الله عليه ကပြောပြတယ်။ "ကျွန်ုပ်တို့ဒီသတင်းကိုကြား ရတာနဲ့ ဥဇဘက်ကစ္စတန် နိုင်ငံရဲ့ 'သိရ်မိဇ်' ဆိုတဲ့မြို့ကိုရောက်ခဲ့တယ်။ (သိရ်မိဇီကျမ်းရှင် အိမာမ်သိရ်မိဇ်သခင်ကလည်း အဲဒီမြို့သားဖြစ်ပါတယ်။) အဲဒီမြို့မှာရှိတဲ့ အလွန်ခံ့ညား ထည်ဝါလှပတဲ့ ဗလီတစ်လုံးမှာ အိရှာအ်နမားဇ်နဲ့ သရာဝီဟ်နမားဇ်ဝတ်ပြုပြီးနောက် ဆော်ဒီအစိုးရ၏အမိန့်အရ အထက်ဖော်ပြပါကြေညာချက်ကို တင်ပြတယ်။ ဟာဖိဇ်ဆပ်များအနေနဲ့ မိမိတို့ရဲ့နာမည်စာရင်းတွေပေးပါ။ ကျွန်တော်တို့တစ် တွေ ဟာဖိဇ်ဆပ်တွေကို အနည်းငယ်စစ်ဆေးမယ်။ စစ်ဆေးပြီးနောက် စစ်မှန်တဲ့ဟာဖိဇ်ဆပ် အားလုံးကို ဆော်ဒီအစိုးရရဲ့ထောက်ပံ့ကြေးနဲ့ အွမ်ရာဟ်ပြုရန် မက္ကာဟ်မြို့သို့စေလွှတ်မယ်။ ကြေညာပြီးနောက် ကျွန်တော်တို့နဲ့ ဆော်ဒီအာဏာပိုင်တွေ ထင်မြင်ယူဆတာကတော့ ဟာဖိဇ် လေး၊ငါးယောက်ပဲ ထွက်လာလိမ့်မယ်။ သို့သော်ကွန်မြူနစ်ဝါဒနဲ့ ထိန်းချုပ်ခံခဲ့ရတယ်။ ဗလီတွေပိတ်ပင်ခြင်းခံခဲ့ရတယ်။ မဒ်ရဆာဟ်ကျောင်း တွေ ပိတ်ပင်ခြင်းခံခဲ့ရတယ်။ မပ်က်သဗ်စာသင်ကျောင်းတွေ ပိတ်ပင်ခြင်း ခံခဲ့ရတယ်။ ဘယ်လောက်တောင် ပိတ်ပင်ခြင်းချုပ်နှောင်ခံခဲ့ရသလဲဆိုရင်

ဘယ်သူမှ ကျမ်းတော်မြတ်ကုရ်အာန်သေလာဝသ် မလုပ်နိုင်ဘူး။ ကျမ်းတော်မြတ်ကုရ်အာန်ကို ဟိဖ်ဇ်(အာဂုံလည်းမဆောင်နိုင်ဘူး) အလွန်ကျဉ်းကျပ်ပြီးအဖိနှိပ်ခံခဲ့ရတဲ့အခြေအနေကြားက ဟာဖိဇ်ဆပ် (၅၁၀၀) ထွက်လာခဲ့ပါတယ်။ အလ္လာဟ်အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်ကို ငါအလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် ထိန်းသိမ်းတော်မူမယ်ဆိုတာ ဤဖြစ်ရပ်က သက်သေပြနေပါတယ်။

ဟာဖိဇ်တွေကိုအကြောင်းပြုပြီး ဒီလောက်ကျဉ်းထဲကျပ်ထဲကြား က အလ္လာဟ်အရှင်မြတ်က ဒီ(န်)သာသနာကိုထိန်းသိမ်းတော်မူတယ်။ ကျမ်းတော်မြတ် ကုရ်အာန်ကို ထိန်းသိမ်းတော်မူတယ်။ အဲဒီလို ထိန်းသိမ်းတဲ့တာဝန်ကိုပေးလို့ ယနေ့ ကျွန်တော်တို့လည်း ဒီတာဝန်ကို ရတယ်။ ကျွန်တော် တို့မှာလည်း တာဝန်ရှိတယ်။ ကျွန်တော်တို့ ကုရ်အာန်ကို တိတိကျကျ အမာနသ်နဲ့ထိန်းသိမ်းမယ်။ နောင်လာနောက်သားတွေကို လက်ဆင့်ကမ်းမယ်ဆိုရင် ဒီတာဝန်ကျေပွန်ရာရောက်မယ်။ အဲဒီအတွက် ကြောင့် ကျွန်တော်တို့တတွေက ဟာဖိဇ်ဆိုရင် ဟာဖိဇ် မပ်က်သဗ်ဆိုရင် မပ်က်သဗ် လုံးဝတစ်လုံးမျှမမှားစေဘဲတိတိကျကျဖတ်နိုင်းရမယ်။ တစ်လုံးမှားရင် ပြန်ဖတ်ခိုင်းပါ။ အဲဒီလိုနဲ့ ကျွန်တော်တို့ဟာ ဒိတ်ဒိတ်ကျဲ ကျွမ်းကျင်တဲ့ သူတွေကို မွေးထုတ်ဖို့ ကျွန်တော်တို့မှာ တာဝန်ရှိပါတယ်။

အစမှာကျွန်တော် ကျမ်းတော်မြတ်ကုရ်အာန်ထဲက ဖတ်ခဲ့တဲ့အာယတ်တော်.........

إِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَإِنَّا لَهُ لَحَافِظُونَ ۝٩

အဲဒီအာယသ်မှာ အလ္လာဟ်အရှင်မြတ်က “ကုရ်အာန်ကျမ်းတော်မြတ်ကို ငါကိုယ်တိုင် ထိမ်းသိန်းမယ်”လို့တာဝန်ယူထားတယ်ဆိုတာ လူကြီးမင်းတို့ သိပြီးပြီ။ အလ္လာဟ်အရှင်တော် မြတ်က ကျွန်တော်တို့ကို ကျမ်းတော်မြတ်ကုရ်အာန် ထိန်းသိမ်းတဲ့ လုပ်ငန်းမှာအသုံးချခဲ့

လို့အလ္လာဟ်အရှင်မြတ်ကို ကျေးဇူးတင်ရမယ်။ ဒါပေမယ့် ကျွန်တော် စကားလေးတစ်ခုပြောမယ်။ အဲဒီစကားလေးကို လေးလေးနက်နက် သတိထားစေချင်တယ်။ ကိုယ်သင်ပေး တဲ့အချိန်မှာ ကလေးတွေကို ရက်ရက်စက်စက်မရိုက်ပါနဲ့။ ကျွန်တော်တို့ဆီမှာ လာသင်တဲ့အချိန် ကလေးတွေကို ရင်းနှီးချစ်ခင်အောင် လုပ်ရမယ်။ ကျွန်တော်တို့ကို ရွံမုန်းအောင် မလုပ်ရဘူး။ ကျွန်တော်တို့က ကလေးတွေကို စာမရရင်ရိုက်တာတွေ့ရတယ်။ ကလေးက စာကျက်တယ်။ စာမရရင် ကျွန်တော်တို့ကရိုက်တယ်။ ဒီကလေးက ခိုးလို့လား၊ ဓါးပြတိုက်လို့လား၊ ဆဲလို့လား၊ ဘာမှမလုပ်ဘူး။ သူစာကျက်တယ်၊ စာမရဘူး။ အဲဒီအခါ ကျွန်တော်တို့က သူ့ကိုအားရပါးရရိုက်တယ်။ ဒါ ကျွန်တော်တို့ မတရားတာပဲ။ သူ စာကျက်ပါလျက် စာမရတာ။ ဒါကို ကျွန်တော်တို့က သဘောထား ကြီးကြီးနဲ့ သင်ပေးရမှာပေါ့။

ကျွန်တော် မှတ်မိပါတယ်။ ကျောင်းမှာ ဟာဖိဇ်ဖြစ်ပြီးဆိုရင် ညှော်ခံပွဲ လေးလုပ်တယ်။ ဂျလ်စဟ်တွေ လုပ်တယ်။ အဲဒီမှာ ဟာဖိဇ်ဖြစ်တဲ့ကလေးက အရမ်း ပျော်တယ်။ ဒီပျော်တဲ့ကလေးက ဘာကြောင့် ပျော်လည်းသိလား။ အဲဒီကလေးက ရိုက်တဲ့ ဆရာရဲ့လက်က လွတ်သွားလို့ ပျော်တာ။ အဲဒီလို မဖြစ်သင့်ဘူး။ ကျွန်တော်တို့အတွက် နမူနာအဖြစ် တိုင်းဖို့ပေတံက တမန်တော် မြတ်( ﷺ )ရဲ့ပုံစံဘဲဖြစ်တယ်။ ကျွန်တော်တို့က တမန်တော်မြတ် ( ﷺ )ရဲ့ဘဝဖြစ်စဉ်တွေကို လေ့လာကြမယ်။ တစ်ခါက အနက်(စ်)( رضي الله عنه ) သခင်က ပြောပြတယ်။ ကျွန်တော်ဟာ ကိုယ်တော်ရဲ့အနီးအနားမှာ (၁၀)နှစ်ကျော် ဝတ်ကြီးဝတ်ငယ် ပြုခဲ့တယ်။ တစ်ခါမှ ကိုယ်တော်မြတ်က ကျွန်တော့်ကို ဆူတယ်၊ ရိုက်တယ်၊ ဇေါက်တယ်ဆိုတာမရှိဘူး။ ဒီအလုပ်ကို ဘာကြောင့် လုပ်တယ်ဆိုတာလဲ မမေးဘူး။ ဒီအလုပ်ကို ဘာကြောင့် မလုပ်တာလည်း မမေးဘူး။ အဲဒီလို သဘောထားကြီးကြီးထားရမယ်။

ဆွဟာဗီတစ်ပါး တောကနေ မပ်(စ်)ဂျိဒေနဗဝီ ကိုလာတယ်။ ဆွာဟာဗာတွေလည်းရှိတယ်။ ကိုယ်တော်မြတ်လည်း ကိုယ်တိုင်ထိုင်နေတယ်။

ဒီဆွဟာဗီက လာလာချင်း မပ်(စ်)ဂျိဒနဗဝီရဲ့ ထောင့်တစ်ထောင့်မှာ သေးပေါက်တယ်။ အဲဒီလို သေးပေါက်တာ ကိုမြင်တော့ ကျန်တဲ့ဆွဟာဗီတွေက အလျင်အမြန်တားဖို့လုပ်ကြတယ်။ အဲဒီအချိန်မှာ တမန်တော်မြတ်(ﷺ)က ဆွဟာဗာဟ်တွေကို တားလိုက်တယ်။ နေပါစေ၊ ပြီးအောင်ပေါက်ပါစေ၊ သူပြီးသွားတဲ့အချိန်မှာ ခေါ်တယ်။ ဘယ်ကလာလဲ လို့မေးတယ် သူကတောကလာတယ်လို့ဖြေတယ်၊ ကိုယ်တော်မြတ်(ﷺ) ကပြောတယ်၊ ဒါကဗလီဝတ်ကျောင်းတော်ဖြစ်တယ်၊ ဒီနေရာက ဝတ်ပြုတဲ့နေရာ၊သေးပေါက်ရမဲ့နေရာမဟုတ်ဘူး။ ဒီနေရာမှာ နမားဇ်ဖတ်တယ်။ သူ့ကို ဂရုဏာအပြည့်နဲ့ကြင်ကြင်နာနာရှင်းပြတယ်။ ဒီဆွဟာဗီက အရမ်းဝမ်းသာသွားတယ်။ ငါဒီလောက် ရိုင်းရိုင်းစိုင်းစိုင်း လုပ်တာတောင် ငါ့ကိုမဆူဘူး၊ မရိုက်ဘူး၊ မငေါက်ဘူး။ ဒါပေမယ့် ငါ့ကို အကြင်နာအပြည့်နဲ့ဆုံးမတယ်၊ ဒီဆွဟာဗီက တမန်တော်မြတ် (ﷺ) ရဲ့ထံတော်ပါးကနေ ပြန်တော့မယ်လို့ နှုတ်ဆက်တဲ့အခါ တမန်တော်မြတ် ( ﷺ )ကမေးတယ်။ ဘယ်သွားမလဲ။ ကျွန်တော် ရွာပြန်မယ်၊ မင်းရွာက ဘယ်မှာလည်း။ သူကရွာနာမည်ပြောတယ်။ အတော်ဝေးတဲ့ရွာကနေ သူလာခဲ့တယ်၊ ပညာမဲ့ကျေးတောသားဆိုတော့ ဗလီရယ်၊ ကျောင်းရယ် ဘာမှမခွဲခြားတတ်ဘူး။ ဒါနဲ့ တမန်တော်မြတ်( ﷺ )ကသူ့ကိုဆက်မေးတယ်။ ထမင်းစားပြီးပြီလား။ မစားရသေးဘူးဆိုတော့၊ အဲဒါဆိုရင် ငါနဲ့လိုက်ခဲ့ဆိုပြီး ကိုယ်တော်က မိမိနဲ့အတူခေါ်သွားတယ်။ ထမင်းကျွေးတယ်။ ထမင်းကျွေးပြီး သူ့ကိုမေးတယ်။ မင်းပြန်ရင် ဘာနဲ့ပြန်မလဲ။ အစီးအနင်းပါလား။ သူကဖြေတယ်-မပါဘူး။ တမန်တော်မြတ်( ﷺ )က ဆွဟာဗီတစ်ပါးဆီက ကုလားအုတ်လေးတစ်ကောင် ခဏငှားလိုက်တယ်။ သူ့ကိုလိုက်ပို့ ပြီးတော့ မေးတယ်။ အဝေးကြီး ကိုသွားရမှာ၊ လမ်းမှာစားဖို့သောက် ဖို့ပါရဲ့လား။ မပါဘူးဆိုတော့ တမန်တော်မြတ်( ﷺ )က စားစရာ၊ သောက်စရာပါ စီစဉ်ပေးလိုက်တယ်။ ဒီဆွဟာဗီက ကိုယ့်ရပ် ကိုယ့်ရွာပြန်ရောက်တော့ ရွာထဲကိုဝင်တာနဲ့ အားလုံးခဏလောက်လာကြပါဆိုပြီး တစ်ရွာလုံးကို ခေါ်လိုက်တယ်။ အားလုံးရောက်လာတော့ ကိုယ်တော်ရဲ့ဆက်ဆံပုံတွေကို တစ်ခုချင်းပြောပြတယ်။ ငါမဒီနာကိုရောက်ရောက်ချင်း ဘုမသိ ဘမသိနဲ့

ဗလီမှာသေးဝင်ပေါက်တယ်။ ဒါပေမဲ့ တမန်တော်မြတ်( ﷺ )က ၎င်းကို မဆူဘူး။ မရိုက်ဘူး၊ မငေါက်ဘူး၊ ၎င်းကိုဆုံးမတယ်။ ပြီးတော့ ထွက်ခါနီးမှာ ၎င်းမစားမသောက်ရသေးဘူးဆိုတော့ ၎င်းကို ကျွေးတယ်။ အစီးအနင်းမပါလို့ အစီးအနင်းပေးတယ်။ လမ်းခုလပ်မှာ စားဖို့မရှိလို့ စားဖို့ပါပေးလိုက်တယ်။ အဲဒီလောက် သိမ်သိမ်မွေ့မွေ့နဲ့သင်ပေးတယ်။ အဲဒီလိုသဘောထားကြီးလှတဲ့ တမန်တော်မြတ်( ﷺ )ထံကို မင်းတို့လည်းလိုက်ခဲ့ကြဆိုပြီး လူပေါင်း (၇၀) ကိုခေါ်လာတယ်။ အဲဒီလူပေါင်း(၇၀)က ကိုယ်တော်ရဲ့ထံမှာ ကလိမဟ်ဖတ်ပြီး အစ္စလာမ်လက်ခံလိုက်တယ်။

အဲဒီလိုပဲ ကျွန်တော်တို့လည်း ကလေးတွေကို ကျွန်တော်တို့နှင့် ရင်းနှီးအောင်လုပ်ရမယ်။ ကျွန်တော်တို့နဲ့တင် ရင်းနှီးအောင် မဟုတ်ဘူး။ ကုရ်အာန်နဲ့လည်းရင်းနှီးအောင် လုပ်ရမယ်။ ကလေးတွေက ကျွန်တော်တို့ကို ချစ်သွားရမယ်။ အဲဒီလောက်ထိ ကျွန်တော်တို့က စွဲဆောင်မှုရှိရမယ်။ ကျွန်တော်တို့က မဖြစ်စလောက်အပြစ်ကလေးလုပ်တာနဲ့ ကလေးတွေကို ရိုက်မယ်၊ ဆူမယ်၊ ဆဲမယ်ဆိုရင် ဒီကလေးတွေ ဘာရမလဲ။ ရိုက်တာပဲ အဖတ်တင်မယ်။ ဆဲတာပဲ အဖတ်တင်မယ်။ နောက် အဆဲပါသွားမယ်။ ကလေးတွေက ရိုင်းတယ်လို့ပြောမယ်။ အဲဒီနောက် ဂျလ်ဆတ်လုပ်တဲ့နေ့မှာ ဆရာကတော့ထင်မယ်။ ဩော်..၎င်းရဲ့ တပည့်ကတော့ တော်တော်ပျော် နေတယ်။ သူပျော်နေတာဘာကြောင့်လဲ။ ဒီလူကြမ်းဆရာ လက်က လွတ်လို့ပျော်တာ၊ အဲဒီလိုမဖြစ်သင့်ဘူး။ ကလေးတိုင်းက ကျောင်းကိုခင် တွယ်မှုရှိရမယ် ကျောင်းတက်ချင်နေရမယ်၊ ဆရာကိုချစ်နေရမယ်။

နောက်တစ်ခု ကျွန်တော်ပြောချင်တယ်။ အဲဒီဟာကို သတိထား ရမယ်။ ဟာဖိဇ်ဖြစ်ဖို့က ဖရ်ဇ်(မလုပ်မနေရတာဝန်)မဟုတ်ဘူး။ ဝါဂျိဗ်(ဗ်)လည်း မဟုတ်ဘူး။ ဒီဒီန်းသာသနာကို သိဖို့က ဖရ်ဇ် ဖြစ်တယ်။ ဝါဂျိဗ်(ဗ်)ဖြစ်တယ်။ ကလေးတစ်ယောက်က ကျွန်တော်တို့ဆီမှာ ဟာဖိဇ်ဖတ်တယ် (သို့မဟုတ်) ကုရ်အာန်ဖတ်တယ်ဆိုရင် ဒီကလေးက ဒီးန်သာသနာကိုသိဖို့ ဒီးန်နဲ့နီး ဖို့လိုတယ်။ ကလေးက ကျွန်တော်တို့ရဲ့ဆက်ဆံမှုကိုကြည့်ပြီး ဒီးန်နဲ့ဝေးသွား

မယ်ဆိုရင် ကျွန်တော်တို့ပဲအဖြစ်ထိုက်မယ်။ ဟာဗိုဒ်ဖြစ်ဖို့ အရေးမကြီးဘူး။ ဒီးနဲ့ဘာလဲသိရမယ်။ ကျွန်တော်တို့ သင်ပေးလိုက်တဲ့ကလေးတွေဟာ၊ ကျွန်တော်တို့ရဲ့ သိမ်မွေ့မှု၊ ကျွန်တော်တို့ရဲ့ ကြင်နာယုယမှုတွေနဲ့ ပြုပြင်ပေးလိုက်မယ်ဆိုရင် ဒီကလေးတွေယဉ်ကျေးလိမ္မာသွားလိမ့်မယ်။ တိရိစ္ဆာန်တစ်ကောင်ကိုတောင် ယဉ်ပါးအောင် လုပ်မယ်ဆိုရင် ယဉ်ပါးပြီး တိရိစ္ဆာန်က အိမ်ကိုစောင့်ရှောက်မယ်။ တစ်ချို့တိရိစ္ဆာန်တွေက လူမရှိရင် သခင်ကိုစောင့်ရှောက်မယ်။ ဘာ့ကြောင့်လဲ၊ သခင်ကသူတို့ကို ယဉ်အောင်လုပ်ထားလို့ ကျွန်တော်တို့လည်း အဲဒီလိုပဲ၊ ဒီကလေးတွေကို ယဉ်အောင်လုပ်ရမယ်။ ဝေးအောင် မဆက်ဆံပါနဲ့၊ ဒေါသ ထွက်ရင်ရိုက် လိုက်မယ်။ ဒီကလေးတွေက ဘာဖြစ်လို့လည်း၊ ခိုးလို့လား၊ ဓါးပြတိုက်လို့လား၊ စာမရတာကို ကျွန်တော်တို့က ဒေါသထွက်လိုက်တယ်။ ကလေးတွေက ငိုပြီးကျန်ခဲ့တယ်။ နောက်ကျတော့ ကလေးတွေက ကျောင်းကိုလုံးဝ မကပ်တော့ဘူး။ ကျွန်တော်တို့က လုံးဝယဉ်အောင်လုပ်ရမယ်။ ဘယ်လောက်ထိ ယဉ်အောင်လုပ်ရမလဲ၊ ဒီကလေးတွေ ကျောင်းက နေထွက်သွားရင်၊ ကျောင်းကိုသံယောဇဉ်ရှိရမယ်။

ကရာချိမှာ ကျွန်တော့်မိတ်ဆွေ တစ်ယောက်ရှိတယ်။ သူ့သား ကဟိုဖင်(န်)မှာ(ဒေါင်း)ဆိုတဲ့ ရွာလေးတစ်ရွာရှိတယ်။ အဲဒီမှာတော်တော် ကောင်းတဲ့ ကျောင်းကြီး တစ်ကျောင်းရှိတယ်။ အဲဒီမှာ ကျောင်းတက်ပြီး ဟာဗိုဒ်ဖြစ်သွားတယ်။ သူ့အဖေက သူ့ကိုကရာချိမှာလာထားတယ်။ ကျွန်တော်နဲ့ဆုံတော့ ကျွန်တော်က မေးတယ်။ ခင်ဗျားသား ဟာဗိုဒ်ဖြစ်နေတယ်ဆို၊ ဘယ်ရောက်နေလဲ၊ ဟုတ်တယ်လေ၊ ဟာဗိုဒ်ပြီးပြီ။ အခုဘယ်ရောက်နေလဲ ဆိုတော့ ကရာချိမှာတဲ့၊ အခုကျောင်း(၁၀)ရက်ပိတ်လို့ (ဒေါင်း)သွားတယ်။ ဟာ..ဘာဖြစ်လို့လဲ၊ သူအိမ်မှာ မနေဘူးလား၊ မဟုတ်ဘူးတဲ့၊ ကျွန်တော့်က လေးက ကျောင်းပိတ်တိုင်း ကျွန်တော့်ဆီမှာ ခွင့်တောင်း ပြီး(ဒေါင်း)ကို သွားတယ်၊ အဲဒီကျောင်းမသွားရရင် သူမနေနိုင်ဘူး။ အဲဒီဆရာတွေကို မတွေ့ရရင်မနေနိုင်ဘူး၊ အဲဒီဆရာတွေ ကြိုးပမ်းထားတဲ့ သူ့ရဲ့စိတ်နှလုံးသားဟာ ကျောင်းကို အရမ်းတွယ်တာနေတယ်။

သူဒီကျောင်းက ထွက်သွားတာတောင် အချိန်ရတာနဲ့ ဒီကျောင်းကို ပြန်လာတယ်။

ကျွန်တော်တို့လည်း ကျွန်တော်တို့ရဲ့ တပည့်တွေကို ဒီလိုပဲ ဆက်ဆံပါ။ မရိုက်ပါနဲ့၊ စာမရရင် လုံးဝမရိုက်ပါနဲ့၊ အေးအေးဆေးဆေးနဲ့ သိမ်သိမ်မွေ့မွေ့ပြောပါ။ ကျောင်းကို ခင်တွယ်အောင်လုပ်ပါ။ ကျွန်တော်က ဘယ်လောက်ထိတောင် ပြောချင်လည်းဆိုရင် ကလေးတွေကိုဒီလိုသင်ပေးပါ။ မင်းတို့ ဒီကျောင်းရဲ့အမိုးကိုလည်း ချစ်ပါ။ ကျောင်းရဲ့မီးခလုတ်တွေကို လည်းချစ်ပါ။ အဲဒါမှကလေးတွေက ကျောင်းနဲ့ဝေးသွားရင်တောင် ကျောင်းကို ချစ်နေမှာ၊သတိရနေမှာ ဒီလိုမဟုတ်ဘဲနဲ့ ကျွန်တော်တို့က ရိုင်းစိုင်းစွာ ဆက်ဆံလိုက်မယ်ဆိုရင် ဒီကလေးတွေက ကျောင်းကလွတ်တာနဲ့ ထောင်ကလွတ်ပြီ ကျွတ်ပြီဟေ့ ဆိုရင် ကျွန်တော်တို့ဘာလုပ်မလဲ ဒီနှံးသာသနာ နားလည်သဘောပေါက်ဖို့ အရေးကြီးတယ်။ ဟာဖိဇ်ဖြစ်ဖို့ အရေးမကြီးဘူး ဆိုတာကိုတော့ ကျွန်တော့်အနေနဲ့ အမှတ်တရ မှာကြားလိုက်ပါတယ်။

# ဓသင်ကြားရှိမကာ စာရိတ္တပါပြုပြင်ပေးကြ

၁၄-၄-၂၀၀၂ (စနေနေ့)ဟောကြားသည်

الحمد لله نحمده و نستعينه و نؤمن به و نتو كل عليه و نعو ذ بالله من شرور انفسنا و من سيئات اعمالنا من يهده الله فلا مضل له و من يضلله فلا هادى له و نشهد ان لااله الا الله وحده وحده وحده لاشريك له و نشهد ان سيدنا وسندنا و مولانا محمدا عبده ورسوله الذى ارسله بشيرا و نذيرا و داعيا الى الله باذنه و سراجا منيرا امابعد فاعوذ بالله من الشيطان الرجيم

بسم الله الرحمن الرحيم

الٓمٓ ۚ ﴿١﴾ ذٰلِكَ الْكِتٰبُ لَا رَيْبَ ۛ فِيْهِ ۛ هُدًى لِّلْمُتَّقِيْنَ ﴿٢﴾

လေးစားအပ်တဲ့ ကျွန်ုပ်တော့ရဲ့ မိတ်ဆွေညီနောင်အပေါင်းတို့ခင်ဗျာ. . . .

ကျွန်တော်ဟာ လူကြီးမင်းတို့ ကျင်းပလျက်ရှိတဲ့ မပ်က်သစ်ကျောင်းဆရာများ မုဇာကရဟ်ကို ယခု တတိယအကြိမ်ရောက်လာခဲ့ခြင်းဖြစ်ပါတယ်။ ကျွန်တော် ဒီနေရာကို ရောက်လာခြင်းဟာ ကျွန်တော်ကိုယ်တိုင် သင်တန်းမှာ ဆည်းပူးလေ့လာဖို့ ဆန္ဒနဲ့ ရောက်လာတာဖြစ်ပါတယ်။ အလ္လာဟ်အရှင်မြတ် ကျွန်တော့ကိုလည်း ပြုပြင်မှုပေးသနားတော်မူပါစေ။

ကျွန်တော်ကိုယ်တိုင်ဟာလည်း ပြုပြင်မှုကို လိုအပ်နေသူဖြစ်ပါတယ်။

မိတ်ဆွေအပေါင်းတို့ခင်ဗျား၊ သင်ပေးသင်ယူအလုပ်ဟာ အလွန်တရာ ဗရကာသ်မင်္ဂလာရှိတဲ့အလုပ်ဖြစ်ပါတယ်။ အကယ်၍ အလ္လာဟ်အရှင်မြတ်ရဲ့ သောင်ဖ်ဖီးက်နဲ့ ကူညီစောင်မမှုကို ရရှိပြီး စိတ်ထားဖြူစင်စွာ ဒီအလုပ်ကို လုပ်ကိုင်နေရင် ဒီအလုပ်ဟာ အလွန်စိတ်ဝင်စားစရာကောင်းတဲ့ လုပ်ငန်းစဉ်တစ်ခု ဖြစ်သွားပါတယ်။ လူကြီးမင်းတို့ တွေ့ပါလိမ့်မယ်။ ဥယျာဉ်မှူးဟာ နေ့စဉ်မိမိဥယျာဉ်ကို ကြည့်ရှုစစ်ဆေးလေ့ရှိပါတယ်။

ဥယျာဉ်မှူးဟာ မိမိစိုက်ပျိုးထားတဲ့ သစ်ပင် ပန်းပင်တွေ တိုးတက်ဖွံ့ဖြိုးနေတာကိုတွေ့ရရင် အလွန်ပျော်ရွှင်မှုခံစားရပါတယ်။ ဥယျာဉ်မှူးဟာ ပျော်ရွှင်မှုကို ခံစားရပြီး သူ့ရဲ့ စိတ်ပါဝင်စားမှုဟာလည်း ပိုမိုမြင့်မားလာပါတယ်။ သူဟာ ပျိုးပင်တိုင်းရဲ့ အခြေအနေကို လိုက်လံကြည့်ရှုမှုပြုလာပါတယ်။ ဒီအပင်ရဲ့ အခြေအနေဘယ်လိုရှိသလဲ။ သရက်ပင်က ဒီအခြေအနေကိုရောက်လာပြီ၊ ပန်းသီးပင်က ဒီအခြေအနေ ရောက်နေပြီ၊ ဥယျာဉ်မှူးက အပင်တွေကို ကြည့်ပြီး ပျော်ရွှင်နေသလို ဆရာတွေကလည်း ကျောင်းသား/သူတွေ တိုးတက်လာတာကို တွေ့ပြီး ပျော်ရွှင်မှုကို ခံစားရပါတယ်။ နဂိုက ဒီကလေး အလစ်ဖ်၊ ဗာ၊ သာ၊ စာ၊ မသိခဲ့ဘူး။ အခု ဒါတွေ ဖတ်တတ်သွားတာကို တွေ့ရပြီး အလွန်တရာ ဝမ်းသာမိပါတယ်။ အဲဒီလိုနဲ့ ကလေးက တိုးတက်လာလေ သအ်လီးမ်နဲ့ သရ်ဗီယသ်မှာလည်း တိုးတက်လာဖို့ အလွန်ကို အရေးကြီးပါတယ်။ အလွန်အရေးကြီးတာက သရ်ဗီယသ်(ယဉ်ကျေးလိမ္မာ အောင်ပြုစုပျိုးထောင်ခြင်း)ဖြစ်တယ်။

ဥယျာဉ်မှူးဟာ အပင်စောင်းနေတာကို အပင်သေးငယ်တဲ့ အချိန်မှာမပြင်ခဲ့ရင် ကြီးပြင်းလာတဲ့အချိန်မှာ ပြင်လို့မရသလို ကလေးရဲ့အား

နည်းချက် တစ်စုံတစ်ခုကိုယ်၍ယ်စဉ်က မပြင်နိုင်ခဲ့ဘူးဆိုရင် ဆရာက ဒီအချက်ကို မသိလိုက်လို့ပဲဖြစ်ဖြစ်၊ ဂရုမစိုက်လို့ပဲဖြစ်ဖြစ် မပြင်လိုက်ဘူး ဆိုရင် ဘယ်လိုမှ မျှော်မှန်းလို့မရတဲ့ ဆုံးရှုံးမှုနဲ့ ရင်ဆိုင်ရမှာဖြစ်ပါတယ်။ ဒီလိုပြုပြင်တဲ့ပုံစံကို ရှင်းအောင် ဥပမာလေးတစ်ခုနဲ့ ကျွန်တော်ပြောပြပါမယ်။ ဆိုကြပါစို့။ ကလေးတစ်ယောက်က ကျောင်းနောက်ကျပြီးရောက်လာတယ်။ ဆရာကသူ့ကို မေးတယ်။ ဘာကြောင့်နောက်ကျသလဲ။ ကလေးက အမေအိပ်ပျော်သွားလို့ ကျွန်တော့်ကို မနှိုးမိလို့ နောက်ကျတာပါ လို့ပြောတယ်။ အဲဒီအချိန်မှာ ဆရာက သူ့အမေကို ဆဲဆိုအပြစ်တင်မယ်။ ပြီးတော့ ဒီကလေးကို ရိုက်ဖို့ ကြိမ်လုံးလည်း ကိုင်လိုက်မယ်ဆိုရင် ဒီကလေးက စဉ်းစားမယ်။ အမှန်ပြောတော့လည်း ကျွန်တော်အရိုက်ခံ ရတယ်။ အမေလည်း အဆဲခံရတယ်ဆိုပြီး ခံစားမိလိမ့်မယ်။

တကယ်လို့ အဲဒီအချိန်မှာ ကလေးနှစ်ယောက်က သူ့နောက်က နောက်ကျပြီး ထပ်ရောက်လာတယ်ဆိုပါစို့။ ဒီကလေးတွေက အရှေ့က ကလေးကို ကြည့်ပြီး အမှန်အတိုင်းပြောရင်လည်း အရိုက်ခံရမယ်ဆိုပြီး မုသားပြော တော့မှာဖြစ်ပါတယ်။ သူတို့နှစ်ယောက် မုသားပြောဖို့ ကြံစည်တော့ မှာဖြစ်ပါတယ်။ အကျိုးဆက်အနေနဲ့ ဘာရမလဲဆိုရင် အရိုက်ခံရမယ့် ကလေးလည်း နောင်ကို အမှန်ပြောတော့မှာ မဟုတ်ဘူး။ ကျန်ကလေးနှစ် ယောက်လည်း အမြဲတမ်း မုသားပြောလိမ့်မယ်။ ဒီဗီဇတွေက သူတို့တစ်တွေ ရဲ့ စိတ်ထဲမှာ အမြစ်တွယ်သွားပါလိမ့်မယ်။ ဒီလိုဘာဖြစ်လို့ ဖြစ်ရသလဲဆိုရင် ဆရာကိုယ်တိုင်က ပြုပြင်ပြီးသားသူမဟုတ်လို့ပါ။ ဆရာကိုယ်တိုင်က သရ်ဗီယသ်ပြုပြင်မှုရယူထားသူဖြစ်ခဲ့ရင် ဒီကလေးတွေဟာ မုသားပြော တတ်မှာမဟုတ်ဘူး။

အဲဒါကြောင့် တစ်ခါတလေ မသိမသာ ဆရာရဲ့မှားယွင်းမှုကြောင့် ကလေးတွေထဲမှာ အကျင့်ဆိုးဝင်လာတတ်ပါတယ်။ ဒီတော့ ဆရာတွေမှာ အလွန်တာဝန်ကြီးပါတယ်။ ခံစားချက်မွေးကြပါ။ အဲဒီလို ခံစားချက်မွေးဖို့

လိုပါတယ်။ ခင်ဗျားတို့ဟာ ဥယျာဉ်မှူးတွေဖြစ်ပါတယ်။ ဘယ်လိုပဲဖြစ်ဖြစ် သရုဗ်ိယသ်ရှိတဲ့ဆရာဆိုရင် ဒီလိုလုပ်မှာ မဟုတ်ဘူး။ ဒီနေရာမှာ လုပ်သင့်တဲ့ အလုပ်က ကလေးနောက်ကျခဲ့ရင် ကလေးကို ခေါင်းပေါ်မှာ ယုယုယယ လက်တင်ပြီး မေးရမယ်။ သား ဘာဖြစ်လို့ ကျောင်းနောက်ကျတာလဲ။ ကလေးက အမေနေမကောင်းလို့ပြောရင် ဒုအာပေးရမယ်။ ဒီလို ဒုအာပြုပေးလိုက် မယ်ဆိုရင် ကလေးမှာ ဘယ်လောက်အားတက်သွားမလဲ။

အကြောင်းတစ်ခု သတိရတယ်။ ဟဇရသ် ရှားဟ် အဗ်ဒွလ်အဇီးဇ် (ﷺ)ရဲ့တပည့်၊ နာမည်က မွတ်ဖ်သီ အိလာဟီဘခ်ရှ် ကာန်ဒိဟ်လဝီ၊ ကန်ဒလာဆိုတဲ့ရွာမှာနေပါတယ်။ အဲဒီမှာ မြေကွက်တစ်ကွက်နဲ့ ပတ်သက်ပြီး မွတ်စ်လင်မ်နဲ့ ဟိန္ဒူအကြား အငြင်းပွားမှုဖြစ်လာပါတယ်။ ပထမတော့ ပိုင်ဆိုင်မှု အငြင်းပွားရာကနေ တစ်ဖြေးဖြေး ဘာသာရေးအသွင်ပြောင်းကာ ဒီအမှုဟာ ရုံးရောက်သွား ပါတယ်။ ဘယ်လောက်တောင် တင်းမာလာသ လဲဆိုရင် ဟိန္ဒူတွေက ဒီမြေကွက်ရရင် မန္ဒိရ်(ဘုရားကျောင်း) ဆောက်မယ်။ မွတ်စ်လင်မ်တွေက ဒီမြေကွက်ရရင် ဗလီဆောက်မယ်လို့ပြောလာကြတယ်။ အဲဒီတုန်းက အင်္ဂလိပ်အုပ်ချုပ်နေတဲ့ကာလဖြစ်တယ်။ တရားသူကြီးကလည်း အကြပ်ရိုက်သွားတယ်။ မွတ်စ်လင်မ်ဘက်ကို အနိုင်ပေးရင် ဟိန္ဒူတွေက စိတ်ဆိုးမယ်။ ဟိန္ဒူတွေကို အနိုင်ပေးရင် မွတ်စ်လင်မ်တွေက စိတ်ဆိုးမယ်။

အဲဒီတော့ တရားသူကြီးက ရက်ချိန်းတွေ တစ်ပတ်ပြီးတစ်ပတ် ပေးနေခဲ့တယ်။ ဒါပေမယ့် အခြေအနေတွေက ပိုပြီးတင်းမာလာခဲ့ပါတယ်။ အဲဒီအတောအတွင်းမှာ ဟိန္ဒူခေါင်းဆောင်အချို့ဟာ တရားသူကြီး အိမ်ကိုသွားပြီး တရားသူကြီးနဲ့တွေ့ခဲ့တယ်။ တွေ့ပြီးဘယ်လိုပြောခဲ့သလဲဆိုရင် ဒီကိစ္စကို ခင်ဗျားဖြေရှင်းဖို့ အလွန်ခက်ခဲပါတယ်။ ဘာဖြစ်လို့လဲဆိုရင် တစ်ဖက်ကို အနိုင်ပေးမယ်ဆိုရင် နောက်တစ်ဖက်က စိတ်ဆိုးလိမ့်မယ်။ အဲဒီတော့ အကြံတစ်ခုပေးချင်ပါတယ်။ အဲဒါဘာလဲဆိုရင် အစ္စလာမ်ဘာသာ ဝင်တွေထဲမှာ သူတော်စင်တစ်ပါးရှိတယ်။ အဲဒီပုဂ္ဂိုလ်ရဲ့နာ မည်က မွတ်ဖ်သီ

အိလာဟ်ဘာခ်ရှ်ဖြစ်ပါတယ်။ အဲဒီပုဂ္ဂိုလ်ဆုံးဖြတ်ပေးမယ့် အဆုံးအဖြတ်ကို ကျွန်တော်တို့အားလုံး လုံးဝဥဿုံလက်ခံမယ်ဆိုတာ အခု ကျွန်တော်တို့လက်မှတ်လိုးပေးခဲ့ပါမယ်။

အဲဒီဆုံးဖြတ်ချက်ကို မွတ်စ်လင်မ်တွေလည်း လက်ခံကြပါမယ်။ အဲဒီနဲ့ အင်္ဂလိပ်တရားသူကြီးက ဆရာကြီးကို ရက်ချိန်းပေးပြီး တရားရုံးကို ဆင့်ခေါ်ခဲ့ပါတယ်။ ဆုံးဖြတ်ချက်ပေးမယ့် ချိန်းထားတဲ့ရက်မှာ ဟိန္ဒူမွတ်စ်လင်မ် နှစ်ဖက်စလုံးကလူတွေ အမြောက်အမြားဟာ တရားရုံးကို ရောက်နေကြတယ်။ အဲဒီအချိန်မှာ မွတ်ဖ်သီအိလာဟ်ဘာခ်ရှ်က ထပြီးကြေငြာတာက– ကျွန်တော်ဟာ ကန်ဒလာရွာသားဖြစ်တယ်။ ကန်ဒလာဟာ ကျွန်တော့ရဲ့ ဇာတိချက်ကြွေမွေးရပ်မြေဖြစ်တယ်။ ကန်ဒလာရွာနဲ့ ပတ်သက်ပြီး ကျွန်တော်ကောင်းကောင်းသိပါတယ်။ ကျွန်တော်ငယ်စဉ်ကစပြီး ယခုအငြင်းပွားနေတဲ့မြေကွက်ဟာ ဟိန္ဒူတွေပိုင်တဲ့ မြေကွက်ဖြစ်တယ်။ အဲဒီအတွက် ဒီမြေကွက်ဟာ ဟိန္ဒူတွေပိုင်တဲ့ မြေကွက် ဖြစ်ကြောင်း ဆုံးဖြတ်ပါတယ်။ အဲဒီလို ကြေငြာပြီးတဲ့နောက် တရားရုံး တစ်ခုလုံး ငြိမ်သက်သွားခဲ့တယ်။ ခဏကြာပြီးနောက် မြေကွက်ပိုင်ရှင် ဟိန္ဒူဟာ ရှေ့ကိုထွက် လာပြီးတော့ကျွန်တော်ဟာ ယခုလိုမွတ်ဖ်သီ အိလာဟ်ဘာခ်ရှ်ရဲ့ သစ္စာသမာဓိနဲ့ ဆုံးဖြတ်ချက်ပေးမှုကို လွန်စွာလေးစား အသိအမှတ်ပြုပါတယ်။ ဒို့အပြင် ကျွန်တော်ဟာ မွတ်ဖ်သီ အိလာဟီ ဘာခ်ရှ်လက်ခံတဲ့ သာသနာ (အစ္စလာမ် သာသနာ)ကိုလည်းမှန်ကန်တဲ့ သာသနာအဖြစ် လက်ခံယုံကြည်တဲ့အတွက် ကျွန်တော်ယခု အားလုံးရဲ့ ရှေ့မှောက်မှာ ဟိန္ဒူဘာသာကိုစွန့်လွှတ်ပြီး အစ္စလာမ်ဘာသာကို လက်ခံလိုက်ပြီလို့ပြောကာ ကလိမဟ် "အရှ်ဟဒု အလ္လာအိလာဟ အိလ္လလ္လာဟ် ဝအရှ်ဟဒု အန်န မုဟမ္မဒန် အဗ်ဒုဟူ ဝရစူလုဟူ" ရွတ်ဆိုခဲ့ပါတယ်။

ပြီးနောက် တစ်ဆက်တည်း အစ္စလာမ်လက်ခံလိုက်တဲ့ ပုဂ္ဂိုလ်က ပြောကြားတာက ဒီမြေကွက်ဟာ ကျွန်တော်ပိုင်တဲ့မြေကွက်ဖြစ်တယ်။

ကျွန်တော် ဒီမြေကွက်ပေါ်မှာ ဗလီဝတ်ကျောင်းတော် ဆောက်လုပ်မှာဖြစ်ကြောင်းကိုပါ လူအများရှေ့မှောက်မှာ ကြေညာလိုက်ပါတယ်”လို့ပြောခဲ့တယ်။ အဲဒီလို ကြေညာတာနဲ့ မွတ်စ်လင်မ်တွေဟာ နာရာအေသပ်ကဗ်ဗိး ရ် အလ္လာဟုအသ်ကဗ်ဗရ်လို့ ကြွေးကြော်ခဲ့ကြတယ်။ အဲဒီအမှုကို ကိုင်တွယ်ခဲ့တဲ့ တရားသူကြီးက ဆုံးဖြတ်ချက်ဘယ်လိုရေးခဲ့သလဲ ဆိုရင် **“ဒီအမှုမှာ မွတ်စ်လင်မ်တွေ ရှုံးနိမ့်ခဲ့ပါတယ်။ အစ္စလာမ်ဘာသာက အနိုင်ရခဲ့ပါတယ်။”** အင်္ဂလိပ်တရားသူကြီးက ဒီစာသားကို အထူးအရေးပေး ရေးသားခဲ့ပါတယ်။ ဒါဟာ တမန်တော်မြတ်(ﷺ)ရဲ့ ဟာဒီးစ်

الصدق ينجي والكذب يهلك အမှန်တရားဟာ အောင်မြင်စေတယ်။ မုသားဟာ ပျက်စီးစေတယ်”ဆိုတဲ့ပြယုဂ်ပဲဖြစ်ပါတယ်။ ဒီဆုံးဖြတ်ချက်ဟာ ယခုလက်ရှိ လန်ဒန်မြို့ရှိ (East India library) အရှေ့အိန္ဒိယ စာကြည့်တိုက်မှာ ရှိပါတယ်။ အဲဒီဆုံးဖြတ်ချက်ပါရှိတဲ့ စာအုပ်ပေါ်မှာ **“မွတ်စ်လင်တွေ ရှုံးခဲ့တယ်။ အစ္စလာမ်နိုင်ခဲ့တယ်”**လို့ ရေးသားထား ပါတယ်။

သူတော်စင်အပေါင်းတို့ခင်ဗျား၊ ကျွန်တော်တို့အားလုံးအပေါ်မှာ တာဝန်ရှိတာက ကျွန်တော်တို့ထံမှာ သင်ယူဖို့လာတဲ့ ကလေးတွေကိုမှန်ကန်တဲ့လမ်းညွှန်မှုပေးရပါမယ်။ ကျွန်တော်တို့ အဲဒီကလေးငယ်တွေကို ပြုပြင်ပေးနိုင်သလို သူတို့ကို ဖျက်ဆီးနိုင်ပါတယ်။ တစ်ခါတလေ ကျွန်တော်တို့ရဲ့ လျစ်လျူရှုမှုကြောင့် တစ်ချို့ကလေးတွေ ပျက်စီးသွားတာလည်းရှိတယ်။ ဂရုစိုက်ရမယ့်အချက်များကို သတိမမူမိတဲ့အတွက်ကြောင့် ကျွန်တော်တို့ရဲ့ အဲဒီကလေးများဟာ ပျက်စီးခြင်းရဲ့အကြောင်းခံတွေဖြစ်သွားကြပါတယ်။ ဥပမာ- ကျွန်တော်တို့ဟာ ကလေးများရဲ့အခြေအနေကို ဂရုပြုနေမယ်၊ သူတို့ဘယ်လို ဝတ်စားဆင်ယင်ကြသလဲ၊ ဘယ်လိုဆံပင်ထားကြသလဲ၊ ကလေးများကို သူတို့ရဲ့အဆင့် ဉာဏ်အမြော်အမြင်နဲ့ အညီ တမန်တော်မြတ်(ﷺ)ဟာ ဘယ်ပုံစံ ဝတ်စားဆင်ယင်ခဲ့သလဲ၊ ဘယ်လိုဆံပင်ထားတော်မူခဲ့လဲ စတာတွေကို သေသေချာချာ သွန်သင်ခဲ့ရင်

အဲဒီကလေးတွေဟာ အလွန်တန်ဖိုးရှိပြီး ခိုင်မာတဲ့သာသနာ့ သားကောင်း ရတနာတွေ ဖြစ်လာမှာဖြစ်တယ်။ တကယ်လို့ ကျွန်တော်တို့ဟာ သူတို့တွေနဲ့ ကြမ်းတမ်းတဲ့ ဆက်ဆံမှု၊ ရိုက်နှက်မှုကို ဆက်လက်လုပ် နေမယ်ဆိုရင် သူတို့တွေဟာ ပြစ်မှုကျူးလွန်မှုတွေ ဖြစ်ပေါ်လာမှာဖြစ်တယ်။ အဲဒီပြစ်မှုတွေရဲ့တရားခံဟာ ကျွန်တော်တို့ပဲဖြစ်ပါလိမ့်မယ်။ အလ္လာဟ် အရှင်မြတ် ကျွန်တော်တို့အားလုံးကို ထိန်းသိမ်းတော်မူပါစေ။ ကျွန်တော်တို့ အားလုံးကို တမန်တော်မြတ်(ﷺ)ရဲ့ လမ်းစဉ်နဲ့အညီ သွန်သင်ဆုံးမနိုင်စွမ်း ပေးသနားတော်မူပါစေ။ အာမီးန်။

ကျွန်တော်တို့ နားလည်သဘောပေါက်ရမှာက ဒီမပ်က်သဗ်ကျောင်း တွေဟာ စာသင်ကျောင်းများဖြစ်သလို ကလေးများရဲ့ အကျင့်စာရိတ္တပြုပြင် ရေးဌာနများလည်းဖြစ်ပါတယ်။ ကျွန်ုပ်တို့ဟာ အကယ်၍ ဒီမပ်က်သဗ် ကျောင်းတွေကို စာသင်ကျောင်းနဲ့ စာရိတ္တပြုပြင်ရေးဌာနအဖြစ် ပြုလုပ်ထားရင် ဘာအခက်အခဲမှ ကျွန်တော်တို့ရင်ဆိုင်ရမှာ မဟုတ်ဘူး။ အကယ်၍ ကျွန်တော်တို့ဟာ ရိုက်နှက်ပြီး သင်ကြားတဲ့လမ်းကို ရွေးမယ်ဆိုရင် ဒီလမ်းဟာ အခက်အခဲများစွာ ရှိတဲ့လမ်းဖြစ်တယ်။ အဲဒီအခက်အခဲကို ခင်ဗျားကိုယ်တိုင်လည်း ရင်ဆိုင်ရနိုင်သလို ခင်ဗျားရဲ့ကျောင်းလည်း ရင်ဆိုင်ရနိုင်တယ်။ ကလေးကို ရိုက်လိုက်တာ သူ့ရဲ့မိဘများသိသွားခဲ့ရင် အဲဒီကလေးရဲ့ မိဘတွေ ကျောင်းကို ရောက်လာနိုင်သလို ရဲစခန်းကိုလည်း ဒီပြဿနာရောက်နိုင်တာ ဖြစ်တဲ့အတွက်ကြောင့် ဒီနည်းလမ်းဟာအခက် အခဲတွေများပြား လှတဲ့နည်းလမ်းဖြစ်တယ်။လွယ်ကူမှုမရှိဘူး၊ တမန်တော်မြတ်(ﷺ) ပြသခဲ့တဲ့စွန္နသ် နည်းလမ်းနဲ့အညီပညာ သင်ကြား ပေးခြင်း ဟာလွယ်ကူတဲ့ နည်းလမ်းတစ်ခု ဖြစ်ပါတယ်။

ဒီမှာ အဓိက အရေးကြီးတဲ့ အချက်က ခင်ဗျားတို့ဟာ နိုးကြားနေဖို့လိုတယ်။ ကျွန်တော်တို့ တွေ့ကြုံရလေ့ရှိတာက မပ်က်သဗ် ကျောင်းများကို ကျွန်တော်တို့ရောက်ချိန်မှာ ဆရာဟာ ထိုင်ခုံပေါ်မှာမှိုပြီး

ထိုင်နေတာတွေတွေ့ရတယ်။ ကလေးတွေဟာ ဆော့ကစား နေကြတာ တွေတွေ့ရပါတယ်။ တစ်ယောက်ကို တစ် ယောက်ရေနဲ့ပက်နေကြတယ်။ တစ်ယောက် နဲ့တစ်ယောက် ထိုးကြိတ်နေကြတယ်။ ဆရာကတော့ ထိုင်မြဲထိုင်နေပါတယ်။ ဒါဟာ ကျွန်တော်တို့ရဲ့ ရည်ရွယ်ချက်မဟုတ်ပါဘူး။ ခင်ဗျားအတွက် လွယ်ကူတဲ့လမ်းစဉ်ဟာ ခုံပေါ်မှာ မှီထိုင်နေခြင်းလို့ မထင်ပါနဲ့။ ခင်ဗျားတို့ရဲ့ အချိန်အခါ၊ ခင်ဗျားတို့ကို ရှိသေမှုဟာ ကလေးတွေဆီမှာ ရှိနေရမယ်။ မိမိရဲ့အချိန်အခါနဲ့ အလုပ်ယူရမှာဖြစ်တယ်။

လူကြီးမင်းတို့ထဲမှာ အများစုဟာ အိုလမာများဖြစ်ကြပါတယ်။ မော်လဝီကျောင်းတွေမှာ ဒုတိယတန်းနောက်ပိုင်း ဆရာအများစုဟာ ဆရာကြီးများဖြစ်တယ်။ ဒုတိယတန်း နောက်ပိုင်းဆရာကြီးတွေ တုတ်ကိုင်တာမတွေ့ရဘူး။ အဲဒီအတန်းတွေက ကျောင်းသားတွေဟာ ကျောင်းသားကြီးတွေများတယ်။ အကယ်၍ ကျောင်းသားကြီးများ ပြဿနာ ဆူပူမှု တစ်စုံတစ်ရာ လုပ်လိုတယ်ဆိုရင် လုပ်နိုင်ကြတယ်။ ဒါပေမယ့် အဲဒီ ကျောင်းသားကြီးတွေဟာ ဘယ်လိုပြဿနာမျှ မလုပ်ဘဲ ဆရာများရဲ့ သင်ခန်းစာများကို စိတ်ပါဝင်စားစွာ နားထောင်တာတွေ့ရတယ်။

ဒါဟာ ဆရာကြီးများရဲ့ အချိန်အခါ၊ သိက္ခာ ရှိသေလေးစားမှု ပေးခံရခြင်းများ ကြောင့်သာဖြစ်တယ်။ အဲဒီဆရာကြီးများဟာ ပြုပြင်မှုရရှိပြီးသား ဆရာများဖြစ်တယ်။ သူတို့ဟာ အင်မတန် ကရုဏာရှိတဲ့ ဆရာတွေဖြစ်တယ်။ သူတို့ဟာ မိမိတပည့်သားများရဲ့ တိုးတက်မှုကို အမြဲသတိထားကြတယ်။ မိမိတို့ရဲ့ဒုအာထဲမှာ တပည့်သားချင်းများကို မေ့လျော့ခြင်းမရှိကြဘူး။ သူတို့ဒုအာလုပ်ကြတာကတော့ အိုအလ္လာဟ်အရှင်မြတ်၊ ကျွန်တော့ရဲ့ ဒီတပည့်များဟာ နေရာအသီးသီးကနေ သာသနာ့ပညာအတွက် ရောက်လာကြတာဖြစ်တယ်။ အလ္လာဟ်အရှင်မြတ် မိမိအသနားတော်နဲ့ သူတို့ကို အိလင်မ်ချီးမြှင့်တော်မူပါ။ ဒီတော့ မိမိတပည့်များကို အမြဲတစေ ဒုအာမှာ သတိရနေတဲ့ဆရာကို

ကျောင်းသားတွေ မလေးစားဘဲနေပါ့မလား။ အဲဒီလို ဆရာများကို ကျောင်းသားများက ရိုသေကြောက်ရွံ့မှု မရှိဘဲ နေပါ့မလား။ ဒီလို ဂုဏ်သိက္ခာ၊ အရှိန်အဝါရရှိခြင်းဟာ တပည့်တွေအတွက် မိမိသားသမီးတွေလို ဒုအာလုပ်ပေးခြင်းကနေ ဖြစ်ပေါ်လာခြင်းဖြစ်ပါတယ်။

ကျွန်တော့်ရဲ့ဖခင်ထံကနေ ကြားခဲ့ရတဲ့ အကြောင်းတစ်ခု ပြောပြပါမယ်။ ဒါရုလ်အုလူးမ်ဒေဝယိုဗန်ဒ်မှာ တစ်ခါက ဆူပူအုံကြွမှုလို အခြေအနေတစ်ရပ်ဖြစ်ပေါ်ခဲ့တယ်။ အဲဒီအချိန်မှာ ဟာဇရသ်မော်လာနာ ဟုစိုင်းန်အဟ်မဒ် (မဒနီ) သက်ရှိထင်ရှားရှိခဲ့တဲ့ အချိန်ဖြစ်ပါတယ်။ ဆရာကြီးဟာ အဲဒီအခြေအနေကို တွေ့မြင်ပြီးတော့ အမိန့်ရှိတယ်။ အကယ်၍ ဆူပူအုံကြွမှုကို ဖန်တီးနေတဲ့ ကျောင်းသားတွေ မိမိတို့ လုပ်ရပ်ကနေ မရပ်တန့်ဘူးဆိုရင် ဒီနေ့ကစပြီး သူတို့အတွက် ဒုအာပြုပေးတော့မှာ မဟုတ်ဘူး။ ဆရာကြီးက ဒီစကားတစ်ခွန်းကိုသာပြောခဲ့ပါတယ်။ ဒီစကားကို ကြားပြီးကျောင်းသားများ ငယ်သံပါအောင် ငိုကြွေးခဲ့ကြပြီး မိမိတို့လုပ်ရပ်ကနေ ရပ်တန့်ခဲ့ကြပါတယ်။ ကျွန်ုပ်တို့ ဒါကို နားမလည်ကြပါဘူး။ ကောင်းစွာ မှတ်ထားကြပါ။ ဒီမဒ်ရသဗ်ကျောင်းတွေဟာ ခေတ်ပညာကျောင်း၊ ကောလိပ်၊ တက္ကသိုလ်ကျောင်းတွေမဟုတ်ပါဘူး။ ဝိညာဉ်ပိုင်းဆိုင်ရာ ပြုပြင်မှုတွေအတွက် ပထမဦးဆုံး စခန်းတစ်ခုဖြစ်ပါတယ်။ ဒီဝိညာဉ်ပိုင်း ပြုပြင်မှုက အရေးကြီးပါတယ်။ ခင်ဗျားရဲ့ စိတ်ပိုင်းဆိုင်ရာ ပြုပြင်မှုဘယ်လောက်ရှိမလဲ၊ အဲဒီလောက် အလုပ်အောင်မြင်မှုရရှိမယ်။ စိတ်ပိုင်းဆိုင်ရာ ပြုပြင်မှု ခင်ဗျားတို့ဆီမှာ မရှိဘူးဆိုရင် အရေအတွက် ဘယ်လောက်ပဲများများ အောင်မြင်မှုရှိမှာ မဟုတ်ဘူး။

ဒါဆိုရင် ကျွန်တော် ခင်ဗျားတို့ဆီက တောင်းဆိုချင်တာက မိမိတို့စာသင်ကျောင်းများကို စာသင်ကျောင်းသက်သက်မထားဘဲ စာရိတ္တရေးရာပြုပြင်ရေးဌာနတစ်ခုအဖြစ် လုပ်ဆောင်ပေးပါ။ ခင်ဗျားရဲ့ ကလေးတွေကို ထိန်းသိမ်းသွန်သင်မှုဟာ ဘယ်လိုဖြစ်သင့်သလဲဆိုတော့

ခင်ဗျားကို တွေ့တာနဲ့ ကလေးတွေဟာ ခင်ဗျားကို လေးစားပြီး အနားကို ရောက်လာရမယ်။ ခင်ဗျားတို့ထဲမှာ တော်တော်များများဟာ ဖခင်များဖြစ်ကြပါတယ်။ မိမိတို့ ရင်သွေးငယ်တွေနဲ့လည်း နူးညံ့သိမ်မွေ့တဲ့နည်းကိုသုံးကြပါ။ ကြမ်းတမ်းတဲ့နည်းကို ပဲသုံးနေကြမယ်ဆိုရင် ခင်ဗျားရဲ့ သားသမီးတွေလည်း ခင်ဗျားကြောင့် အပြစ်ကျူးလွန်သူတွေဖြစ်သွားကြလိမ့်မယ်။ ခင်ဗျားဘယ်တော့မှ အမှန်ကို သိရမှာ မဟုတ်ဘူး။ သူတို့ရဲ့အခြေအနေမှန်ကို မသိရဘူးဆိုရင် ခင်ဗျားသူတို့ကို ဘယ်လိုပြုပြင်မလဲ။ ကလေးတွေရဲ့ခေါင်းပေါ်ကို ယုယုယယလက်တင်ပြီး "သား ဘယ်ကပြန် လာတာလဲ"လို့ ချိုချိုသာသာပြောရင် ကလေးက အမှန်ကိုပြောပါလိမ့်မယ်။ အမှန်သိရင် ခင်ဗျားပြုပြင်နိုင်လိမ့်မယ်။

ခင်ဗျားဟာ ကြမ်းကြမ်းတမ်းတမ်းမေးမယ် မင်းဘယ်က ပြန်လာတာလဲ ၊ ကလေးက ခင်ဗျားကို ကြောက်နေပြီး အမှန်ကို မပြောဘဲ ကျွန်တော် ဗလီမှာ ကုရ်အာန်ဖတ်နေတာပါလို့ လိမ်ညာပြီးပြောလိမ့်မယ်။ အမှန်မှာ ကလေးဟာ အင်တာနက်ဆိုင်မှာ ရှိနေခဲ့တာဖြစ်တယ်။ ဒီလိုဆိုရင် အမှန်မသိရဘဲ ပြုပြင်ရခက်ပါလိမ့်မယ်။ အကယ်၍ ချိုချိုသာသာ မေးရင် ကလေးဟာ အမှန်ပြောမှာဖြစ်တယ်။ ကျွန်တော့်သူငယ်ချင်းတွေနဲ့အတူတူ အင်တာနက်ဆိုင်မှာ ရှိနေခဲ့တာဖြစ်တယ်လို့ ပြောမှာဖြစ်တယ်။ ကလေးအမှန်ပြောရင် ဘာမှမလုပ်ပါနဲ့။ မကြားချင်ဟန်ဆောင်ပြီး အခွင့်ကောင်းရမှသာ မိမိကလေးသားသမီး အားလုံးကို စုရုံးပြီး ဆိုးသွမ်းတဲ့ ကလေးတွေရဲ့ အကြောင်းတွေ၊ ၎င်းတို့ရဲ့ရလဒ်တွေ ကလေးတွေကို ပြောပြပါ။ ၎င်းတို့ရဲ့ ဆိုးသွမ်းမှုကြောင့် ရဲတွေက သူတို့နောက်ကို လိုက်နေတယ်။ နောက်ဆုံး သူတို့ထောင်ကျတယ်။ သူတို့မိဘတွေလည်း စိတ်ဆင်းရဲရတယ်လို့ ပြောပြပါ။ ခင်ဗျားတို့ရဲ့ကလေးတွေ နောက်တစ်ခါ အင်တာနက်ဆိုင်သွားဖို့လုပ်မယ်။ မဟုတ်တာလုပ်ဖို့ စိတ်ကူးရင် ခင်ဗျားပြောပြထားတဲ့ အကြောင်းအရာတွေ သတိရပြီး ရပ်တန့်သွားမယ်။ ဒီလိုသွန်သင်ဆုံးမမှုဟာ

တစ်ခါလောက် ဆိုးသွမ်းတဲ့ ကလေးတွေအကြောင်း ပြောပြရုံနဲ့ မလုံလောက်ဘူး။ အခေါက်ခေါက်အခါခါ ပြောပြနေရမှာဖြစ်တယ်။

အဓိက အရေးကြီးတာက ကျောင်းသားနဲ့ဆရာ မိဘနဲ့ သားသမီးများကြားမှာ အဆက်အသွယ် နီးကပ်မှု ရှိရမှာဖြစ်ပါတယ်။ ဆက်သွယ်မှု နီးနီးကပ်ကပ်ရှိနေရင် ကလေးဟာ ကိုယ်ဖြစ်ခဲ့ရတဲ့ အကြောင်းစုံကို ခင်ဗျားကို ပြောပြမှာ ဖြစ်ပါတယ်။ အဲဒီလို ကျောင်းသားများ၊ သားသမီးများဟာ ခင်ဗျားကို အကြောင်းစုံပြောပြလာရင် ခင်ဗျားအတွက် အမှားပြုပြင်ဖို့ လမ်းစပွင့်လာမှာဖြစ်ပါတယ်။ ကလေးရဲ့ ခံစားချက်တွေထဲက မှားတဲ့အချက်တွေကို မှင်နီတားပြီး အဲဒီအမှားများကို ပြုပြင်ဖို့နည်းလမ်းရှာပါ။ ဒါဟာ စစ်မှန်တဲ့ ပြုပြင်မှု သရုပ်ဖြစ်တယ်။

ရှိုက်ခ်တွေလည်း မိမိရဲ့တပည့် (မုရီးဒ်)တွေကို ဒီနည်းအတိုင်းပဲ ပြုပြင်ကြတယ်။ မုရီးဒ်တွေရဲ့ နေ့စဉ် ကြုံကြိုက်ရတဲ့ ပေးစာများကို ဖတ်ပြီး ပြုပြင်ရမယ့် အချက်များကို မှင်နီတားပြီး လမ်းညွှန်မှုတွေပေးတယ်၊ ဒါ့ကြောင့် မိမိတို့ကျောင်းများကို စာသင်ရုံသက်သက် နေရာမဟုတ်ဘဲ ပြုပြင်ပေးသော ဌာနအဖြစ်လုပ် ဆောင်ပါ။ ကလေးတွေကို ဥယျာဉ်မှူးတစ်ယောက်က မိမိပျိုးပင်များကို ပြုစုပျိုးထောင်သကဲ့သို့ ကလေးတွေကို ပြုစုပျိုးထောင်ကြပါ။ ဒီလိုလုပ်မယ်ဆိုရင် ခင်ဗျားရဲ့ အကျိုးပြုနိုင်စွမ်းဟာ ပျံ့နှံ့လာမှာဖြစ်တယ်။ အကယ်၍ ခင်ဗျားဟာ ကြမ်းတမ်းတဲ့ လမ်းကိုပဲ ရွေးချယ်မယ်ဆိုရင် ကျောင်းကော်မတီတွေဟာ ခင်ဗျားကို တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ် သည်းခံမယ်၊ လေးကြိမ်မြောက်မှာ ခင်ဗျားကို ကျောင်းကနေ အနားပေးလိုက်မှာဖြစ်တယ်။

ဒီလိုဆိုရင် ခင်ဗျားရဲ့ ဖိုင်းဇ် (အကျိုးဆက်)ရှင်သန်ခြင်းလား၊ ဖိုင်းဇ် ပြတ်တောက်သွားလားဆိုတာကို စဉ်းစားလို့ရတယ်။ ခင်ဗျားကျောင်းက အထုတ်ခံရခြင်းဟာ ခင်ဗျားအတွက်လည်း မကောင်းဘူး။ လူတွေပြောကြမှာ

က ဒီဆရာက အရမ်းရိုက်တဲ့ဆရာဖြစ်တယ်။ ဒီဆရာကို ဟိုကျောင်းက ထုတ်ပစ်လိုက်တယ်။ ဒီကျောင်းက ထုတ်ပစ်လိုက်တယ်။ အကယ်၍ ခင်ဗျားဟာ ကလေးတွေရဲ့သရုပ်ဗေဒကို မှန်ကန်တဲ့ နည်းလမ်းနဲ့ လုပ်ခဲ့ရင် ခင်ဗျားကိုကျောင်းကလည်း ထုတ်မှာမဟုတ်ပါဘူး။

ကျွန်တော်တို့တစ်တွေဟာ တမန်တော်မြတ်ကြီး(ﷺ) ရဲ့စံနမူနာအတိုင်း ကလေးငယ်တွေကို သူတို့ရဲ့ဉာဏ်နဲ့အညီ ကလေးကြီးတွေကို သူတို့ရဲ့ဦးနှောက်နဲ့ဉာဏ်မီသလောက် သင်ပေးကြရမယ်။ ကျွန်တော်တို့အထဲမှာ ရောဂါတစ်ခုရှိတယ်၊ အဲဒါက ကျွန်တော်တို့ကိုကုရ်အာန်ကျမ်းမြတ်ကို သင်ပေးမလား၊ မန်သွိက်တွေကိုသင်ပေးမလား၊ လို့မေးလျှင် ကျွန်တော်တို့က မန်သွိက်ဘဲသင်ပေးခြင် ကြတယ်။ အဲဒါလည်းရောဂါတစ်ခုဘဲ၊ ခင်ဗျားတို့ကိုမေးမယ်–ဘုခါရီကျမ်းနှင့် ကုရ်အာန်ကျမ်းတော်မြတ်ဘယ်ကျမ်းကကြီးသလဲ၊ အားလုံးကပြောမယ်–ကုရ်အာန် ကြီးတယ်၊ ဒါပေမဲ့ ကုရ်အာန်ကိုအထင်သေးတယ်၊ ကုရ်အာန်ကိုအထင်မသေးပါနဲ့၊ အလ္လာဟ်အရှင်မြတ်က ကျွန်တော်တို့အားလုံးကို အဆင့်ဘစ်ခုပေးထားတယ်၊ ဆွလာဟိယသ်ဆိုတဲ့အရည်အချင်းလဲတစ်ခုပေးထားတယ်၊ ရရှိထားတဲ့အရည်အချင်းကို အသုံးချမှ တိုးတက်မယ်၊ တိုးတက်တယ်ဆိုတဲ့နေရာမှာ လောကီဆိုင်ရာတိုးတက်ခြင်းနဲ့ လောကုတ္တရာဆိုင်ရာတိုးတက်ခြင်းဆိုပြီးနှစ်မျိုးရှိတယ်၊ လောကီဆိုင်ရာတိုးတက်ခြင်းက စီးပွားဥစ္စာတိုးတက်လာမယ်၊ လောကုတ္တရာဆိုင်ရာတိုးတက်ခြင်းက ကျင့်စဉ်တွေတိုးတက်လာမယ်၊ ဒါတွေတိုးတက်ဖို့ဆိုတာကလည်း မိမိရဲ့အရည်အချင်းတွေကို အသုံးချတတ်မှတိုး တက်မယ်။

ကရေချီမှာမိတ်ဆွေတစ်ယောက်ရှိတယ်၊ နှစ်ပေါင်း(၃၀)လောက်ရှိပြီ၊ ကျမ်းတော်မြတ် ကုရ်အာန်ကိုသင်ပေးနေတယ်။ ဘာမှတိုးတက်မှုမတွေ့ရဘူး၊ ကျွန်တော့်ဖခင်နှင့်အတန်းတူဖတ်သားတဲ့ ဒါ၅လ်အူလှုမ်ဒေယိုဗန်ကဆရာတစ်ပါးရှိတယ်၊ ပါကစ္စတန်နိုင်ငံဖြစ်ပေါ် လာပြီးနောက်ပိုင်း

ပါကစ္စတန်နိုင်ငံဘက်ရောက်လာတယ်၊ ဒီဆရာကြီးဟာ ဟဒီးဆ်ကျမ်းတွေပို့ချမယ်ဆိုရင် ရှိုင်ခွလ်ဟဒီးဆ်တစ်ပါးလို အရည်အချင်းရှိတယ်၊ ဒါပေမဲ့ကုရ်အာန်ကိုဘဲရွေးပြီးခိဒ်မသ်လုပ်လာတယ်၊ နူးညံ့တဲ့ပုံစံနဲ့ခိဒ်မသ်လုပ်လာခဲ့တဲ့အပေါ်မှာ ဆရာသခင်ကြီးဟာ ပါကစ္စတန်နိုင်ငံတွင်သာမက ကမ္ဘာတစ်ခုလုံးမှာ ထင်ပေါ်ကျော်ကြားတဲ့ အာလင်မ်ကြီးတစ်ပါးဖြစ်လာတယ်၊ ကမ္ဘာတစ်ခုလုံးမှာ သူ့တပည့်တွေ၊ သူ့တပည့်တွေရဲ့တပည့်တွေ၊ သူ့တပည့်တွေရဲ့ တပည့်တွေနဲ့ ပျံ့နှံ့နေတယ်။

ကျွန်တော်တို့ဆီမှာ ရှေ့ဆောင်လမ်းပြဆရာအဖြစ်နှင့် တမန်တော်မြတ်ကြီး( ﷺ )ကစံနမူနာဖြစ်တယ်၊ တမန်တော်မြတ်ကြီး (ﷺ)လို ဆရာဟာ ကမ္ဘာတစ်သက်၊ လူ့တစ်သက်မပေါ်ပေါက် နိုင်တော့ပါဘူး၊ အလားတူ ဆွဟာဗဟ်( ؓ )တွေလိုဆရာများဟာ ကမ္ဘာတစ်သက်၊ လူ့တစ်သက်မပေါ်ပေါက် နိုင်တော့ပါဘူး၊ ဒီတမန်တော်မြတ်ကြီး (ﷺ)နှင့် ဆွဟာဗဟ်(ؓ)ကြီးများရဲ့ နည်းစံနစ်တွေကို မပ်က်သဗ်ပညာပို့ချ တဲ့နေရာမှာ လိုက်နာကျင့်သုံးမယ်ဆိုရင် အားလုံးအောင်မြင်မှုရရှိမှာဖြစ်ပါတယ်။

ဒီနေ့ပြောကြားတဲ့ဒီစကားရပ်များအပေါ်မှာ အားလုံးလိုက်နာနိုင်စွမ်းချီးမြှင့်တော်မူပါစေ။...............

واٰخر دعوٰينا ان الحمد لله رب العالمين

# အခကောင်းမှသာ အနှောင်းသေခြာမှာ

၁၆-၄-၂၀၁၂(တနင်္လာနေ့)ဟောကြားသည်

الحمد لله نحمده ونستعينه ونؤمن به ونتوكل عليه ونعوذ بالله من شرور انفسنا ومن سيئات اعمالنا من يهده الله فلا مضل له ومن يضلله فلا هادى له ونشهد ان لا اله الا الله وحده وحده وحده لاشريك له ونشهد ان سيدنا وسندنا ومولانا محمدا عبده ورسوله الذى ارسله بشيرا ونذيرا وداعيا الى الله باذنه وسراجا منيرا امابعد فاعوذ بالله من الشيطان الرجيم بسم الله الرحمن الرحيم

وَمَآ اٰتٰىكُمُ الرَّسُوْلُ فَخُذُوْهُ ۚ وَمَا نَهٰىكُمْ عَنْهُ فَانْتَهُوْا ۚ وَاتَّقُوا اللّٰهَ ۭ اِنَّ اللّٰهَ شَدِيْدُ الْعِقَابِ ۘ

ချစ်ခင်လေးစားအပ်ပါသော ကျွန်တော့်ညီနောင်အပေါင်းတို့ခင်ဗျား ကျွန်တော့်အတွက်ကံကောင်းချင်းတစ်ခုကတော့ လူကြီးမင်းတို့အနေနဲ့ ကျွန်တော့်ကိုချစ်ခင်မှု၊ ယုံကြည်အားထားမှုရှိလို့ ကျွန်တော်လူကြီးမင်းတို့ရှေ့မှောက်မှာ စကားအနည်းငယ်ပြောခွင့်ရရှိခဲ့ပါတယ်။ ပြီးခဲ့တဲ့ထိုင်ခိုင်းတွေမှာ ကျွန်တော်ပညာသင်ကြားရေးစနစ် များနဲ့ကလေးတွေကို ပြုစုပျိုးထောင်ခြင်းဆိုင်ရာကိစ္စတွေနဲ့ပက်သက်ပြီး စကားအတော်များများ တင်ပြခဲ့ပြီးဖြစ်ပါတယ်၊ ယခုတင်ပြမယ့်စကားတွေကတော့ ကျွန်တော့်အမြင်နဲ့ပြောရရင် ပြီးခဲ့တဲ့စကား

တွေထက် အဆပေါင်းများစွာ အရေးကြီးတဲ့ အချက်တွေဖြစ်တယ်။ ကျွန်တော်အဓိကတောင်းဆိုချင်တာကတော့ မပ်က်သဗ်ကျောင်းဆရာများ ကျွန်တော်ယခု တင်ပြမယ့်အချက်တွေကို သဘောပေါက်နားလည် အောင်ကြိုးစားပါ၊ ကျွန်တော်တို့နေထိုင်တဲ့ဒေသဟာ (ဗရ်ရေစွဂိရ်း) တိုက်ငယ်တစ်ခုရဲ့အမည်နဲ့ နာမည်တွင်ခဲ့ပါတယ်။

အဲဒီတိုက်ငယ်အတွင်းမှာ အိန္ဒိယ၊ ပါကစ္စတန်၊ ဘင်္ဂလားဒေ့ရှ် မြန်မာ၊ အာဖဂန်နစ္စတန်၊ ပါကစ္စတန်နဲ့ဆက်စပ်နေတဲ့ အီရန်နယ်စပ်များပါ ဝင်ပါတယ်ဒီတိုက်ငယ်ကို အင်္ဂလိပ်တွေ မလွှမ်းမိုးမီ အာဖဂန်နစ္စတန်နဲ့ အီရန်ရဲ့ ဗလူကျစ္စတန်ဒေသမှအပ ကျန်ဒေသများရဲ့လူမျိုးစုများဟာ များသောအားဖြင့် တော်တော်နီးစပ်တဲ့ လူမျိုးတွေဖြစ်ကြပါတယ်။ ဒီဒေသတွေမှာ မွတ်စ်လင်မ်ဘုရင်တွေအုပ်ချုပ်လာခဲ့ကြပါတယ်။ ဒီဒေသရဲ့ မွတ်စ်လင်မ်တွေဟာ လုံခြုံစိတ်ချစွာနဲ့ အသက်မွေဝမ်းကျောင်းမှု ပြုလုပ်ခဲ့ကြပါတယ်။ နောက်တစ်ချက်ကတော့ဒီဒေသမှာ သဘာဝ သယံဇာတ ပေါများမှုကို အခြေခံပြီး အနောက်နိုင်ငံအင်အားစုများဟာ ဒီဒေသကိုသိမ်းပိုက်ဖို့အကြိမ်ကြိမ် ကြိုးပမ်းခဲ့ကြပါတယ်။

ဒီအင်အားစုတွေဟာ ပြင်သစ် အီတလီပေါ်တူဂီ ဟော်လန်နိုင်ငံမှ ဒက်ချ်လူမျိုး၊ အင်္ဂလန်မှအင်္ဂလိပ်လူမျိုးတွေဖြစ်တယ်။ ဒီလိုသိမ်းပိုက်ရန် ကြိုးစားရင်းနဲ့ သူတို့အချင်းချင်း တိုက်ပွဲတွေလည်း ဖြစ်ခဲ့ရတယ်။ ကျွန်တော်တို့အားလုံးသိကြပါတယ်။ ကျွန်တော်တို့ရဲ့ကံကြမ္မာဆိုးခြင်း၊ ကျွန်တော်တို့တွေရဲ့ ကိုယ်ကျင့်တရားပျက်ပြားခြင်းတွေကြောင့် အင်္ဂလိပ်တွေဟာ ဒီတိုက်ပွဲမှာ လွှမ်းမိုးအောင်နိုင်ခဲ့ပါတယ်၊ အင်္ဂလိပ်ဟာ ဒီနေရာတွေကို သိမ်းပိုက်ပြီး နောက်ပိုင်း ညှင်းပမ်းနှိပ်စက်မှုအမျိုးမျိုး ပြုလုပ်ခဲ့ပါတယ်။ အဲ့ဒီအချိန်မှာ အိန္ဒိယနိုင်ငံလက်အောက်မှာ အိန္ဒိယ၊ ပါကစ္စတန်၊ ဘင်္ဂလားဒေ့ရှ် (၃)နိုင်ငံရှိခဲ့ပါတယ်။ ဒီသုံးနိုင်ငံဟာ လွန်စွာကြမ်းတမ်းတဲ့ညှင်းပမ်းနှိပ်စက်မှုဒဏ်တွေကို ခံခဲ့ကြရပါတယ်၊ ဒါပေမယ့် ကျွန်တော်တို့ရဲ့ အိုလမာတွေဟာ အလွန်ရှတ်ရှတ်ချွန်ချွန်နဲ့ စွန့်လွှတ်စွန့်စားအနစ်နာခံမှုများစွာလုပ်ခဲ့ကြပါတယ်။ ၎င်းတို့ရဲ့ အနစ်နာခံမှုများကြောင့် ကျွန်တော်တို့ ယခုလို အခြေအနေမျိုးမှာ ရှိနေကြတာဖြစ်တယ်။

ကျွန်တော်ယခုတင်ပြတာတွေကတော့ စကားဦးအနေနဲ့ တင်ပြခြင်းဖြစ်ပါတယ်၊ ကျွန်တော်အဓိကတင်ပြချင်တာကတော့ ကျွန်တော်တို့(အိုလမာ)ခေါင်းဆောင်တွေ ဒီလမ်းကိုရွေးတာ ဒီလိုဒုက္ခမျိုးစုံခံခဲ့တာဟာ ဘာမှမတတ်နိုင်လို့မဟုတ်ပါ။ ဘာမှမတတ်နိုင်ဘူးဆိုတာက သူတို့ဟာစားစရာမရှိလို့နွမ်းပါးလွန်းလို့ အင်္ဂလိပ်ကို တော်လှန်ခဲ့ကြတာ မဟုတ်ဘူး။ စားစရာမရှိလို့ ကျောင်းတွေဖွင့်ပြီးကလေး တွေကိုစာသင် ပေးခဲ့ကြတာမဟုတ်ပါဘူး။ သူတို့ဟာ အလွန်ကြီးကြယ်တဲ့ ရည်ရွယ်ချက် တစ်ခုကြောင့် ဒီလမ်းကို ရွေးချယ်ခဲ့ကြခြင်းပဲဖြစ်တယ်။

ကျွန်တော် ခင်ဗျားတို့ကို ဥပမာ တစ်ခုပေးပါမယ်၊ ဒီဥပမာကတော့ ကျနော့ရဲ့ ဆွေမျိုးတစ်ခုလုံးဟာ အိန္ဒိယနိုင်ငံမပြိုကွဲခင် (၁၉၄၇)အရင်က သာသနာကိုင်းရှိုင်းမှုနဲ့ လွန်စွာဝေးခဲ့ကြပါတယ်။ ကျွန်တော့်ရဲ့အဒေါ်ငါးယောက်စလုံးဟာ (၁၉၄၇)ခုနှစ်အရင်က အလီဂရ်ကောလိပ်မှာတွဲ့ရခဲ့ကြပြီး ခေတ်ပညာကိုသာ လေ့လာလိုက်စားခဲ့ကြပါတယ်။ ကျွန်တော်တို့ရဲ့ဆွေမျိုးတွေထဲမှာ သာသနာ့ပညာရှင်မော်လဝီဆိုလို့ မည်သူမှမရှိခဲ့ပါ။ ဒါပေမဲ့ ကျွန်တော်တို့ ဆွေမျိုးအသိုင်းအဝိုင်းရဲ့ ကံကောင်းခြင်းတစ်ခုကတော့ ကျွန်တော်တို့ရွာနားမှာ ဟာဇရသ်မော်လာနာမစီဟွလ္လာဟ်ခါန်ဆွာဟစ်ဗ် နေထိုင်ပြီးထိုဆရာကြီးရဲ့ကျောင်းတစ်ခုရှိပါတယ်။ ဒီဆရာကြီးဟာ ဟာဇရသ်မော်လာနာအရှ်ရဖ်အလီထာနဗီ သခင်ကြီးရဲ့ ခလီဖဟ်ကြီးများထဲက ခလီဖဟ်တစ်ဦးဖြစ်ပါတယ်။ကျွန်တော်တို့ဆွေမျိုးအသိုင်းအဝိုင်းဟာ ဒီဆရာကြီးနဲ့ဆက်နွှယ်တာဆိုလို့ ခလေးတွေကို(မန်းမှုတ်)တာတို့ သအ်ဝီဇ်ယူတာတို့လောက်ပဲရှိပါတယ်။ ဒီဆရာကြီးထံက သာသနာ့လမ်းညွှန်မှုရယူခဲ့ခြင်းမရှိခဲ့ပါဘူး။ ကျွန်တော့်ဖခင်ကကျွန်တော်တို့ကို ပြောပြခဲ့ပါတယ်။ သူဟာငယ်ရွယ်စဉ်က အလွန်ဆိုးတဲ့ကလေးတစ်ယောက်ဖြစ်ခဲ့တယ်။ဘယ်လောက်ဆိုးသလဲဆိုရင် ကျွန်တော်တို့အဘိုးပိုင်တဲ့ အလွန်ကောင်းမွန်တဲ့မြင်းမတစ်ကောင်ကို စီးပြီး ရွာမှာအပတ်စဉ်ဈေးပတ်ဖြစ်တဲ့ ဗုဒ္ဓဟူးနေ့ဆို ဈေးကိုသွားလေ့ရှိတယ်။

အဲဒီဈေးမှာ မြေပေါ်ဈေးထိုင်ရောင်းနေတဲ့ ဈေးသည်တွေကို မြင်းနဲ့ဝင်တိုက်တယ်။ အချို့ကလက်တွေခြေထောက်တွေကျိုးကြတယ်၊

အချို့ကဒါဏ်ရာတွေရကြတယ်။ ကျွန်တော့်အဘိုးစီကို ဒီလူတွေလာပြီး အမေ့ရဲ့လုပ်ရပ်ကို တိုင်ကြတယ်။ ကျွန်တော်ရဲ့အဖိုးက ဒီပြဿနာတွေကိုရုံးတွေ ဝင်တွေမှာ ခဏခဏလိုက်ရှင်းရတယ်။ ကျွန်တော့်အဖေရဲ့လုပ်ရပ်တွေကြောင့် ကျွန်တော့်ဘိုးအေဟာ လွန်စွာစိတ်ဒုက္ခရောက်ပြီး စိတ်ဆင်းရဲမှုတွေနဲ့ရင်ဆိုင်ခဲ့ရတယ်။ မတတ်နိုင်သည့်အဆုံးမှာ ရွာနားမှာရှိတဲ့ မစိဟွလ္လာဟ်ခါန်ဆွာဟစ်ဗ်ထံကို ဖခင်အား ခေါ်သွားခဲ့တယ်။ခေါ်သွားရတာက သအ်ဝီးဇ်ယူဖို့နဲ့ အလုပ်နိုင်းဖို့ဖြစ်တယ်။ အဖိုးကဆရာကြီးကို ဒီကလေးဟာ ဒုက္ခအလွန်ပေးကြောင်းခဏခဏ ပြဿနာလိုက်ရှင်းနေရကြောင်း၊ ယခုဒီကလေးရဲ့ ပြဿနာတွေ လိုက်မရှင်းနိုင်တော့ကြောင်း၊ အလ္လာဟ်ထံမှာ ဒီကလေးအတွက် ဒုအာပြုပေးပါ၊ သအ်ဝီးဇ်လုပ်ပေးပါလို့ပြောတော့ ဆရာကြီးက သအ်ဝီးဇ်တော့ကျွန်တော် မပေးတော့ဘူး။ ဒီကလေးကိုဒီမှာ ခဏထားသွားလိုက်ပါလို့သာပြောပါတယ်။ သူ့ရဲ့ဆိုးသွမ်းမှုတွေ ပပြောက်သွားအောင်ကြိုးစားကြည့်မယ်လို့ ပြောတာနဲ့ဘိုးအေက ကျွန်တော့်ဖခင်ကို ဆရာကြီးထံမှာထားပြီးပြန်သွားပါတယ်။

ကျွန်တော့်ဖခင်ကို ခဏသာအပ်ထားခဲ့ပေမဲ့ ဖခင်ဟာဆရာကြီးထံက လုံးဝမပြန်တော့ပါဘူး ဒီကျောင်းမှာဘဲ ဆရာကြီးထံမှ(၅)တန်းအထိ ပညာသင်ယူခဲ့ပါတယ်။ နောက်ပြီး မှတ်သားစရာကောင်းတာက ဒီဆရာကြီးဟာ ကျွန်တော့်ဖခင်ကို (၅)တန်းဖတ်ပြီးတဲ့နောက် ဟဇရတ် မော်လာနာဟုစိုင်ယန်အဟ်မဒ်မဒနီရဲ့ လက်ထဲကိုအပ်နှံခဲ့ပါတယ်။ ကျွန်တော်ပြောခြင်တာက ကျွန်တော့်ဖခင်က ကျွန်တော်တို့ကိုပြောကြားလေ့ရှိတာကတော့ ငါဟာ မော်လဝီလမ်းစဉ်ကိုဘာမှမတတ်နိုင်တဲ့အဆုံး ရွေးချယ်ခဲ့တာမဟုတ်ဘူး။ ငါ့ရဲ့ မိဘာစုအသိုင်းအဝိုင်းဟာ အလွန်အခြေအနေကောင်းပြီး၊ အလွန်အဆင်ပြေတဲ့ မိသားစုဖြစ်တယ်။ ငါဟာ မော်လဝီလမ်းစဉ်ကို သေသေချာချာ စဉ်းစားတွေးတောပြီးမှ ရွေးချယ်ခဲ့တာဖြစ်တယ်။ ဘယ်လိုဘဲဖြစ်ဖြစ် ကျွန်တော့်ဖခင်ဟာ ကျွန်တော်တို့ကိုအမြဲသတိပေး ပြောကြားခဲ့တာက ငါကကိုယ်ပိုင်ဆုံးဖြတ်ချက်နဲ့ မော်လဝီလမ်းစဉ်ကို ရွေးချယ်ခဲ့တာဖြစ်တယ်။ အမှန်မှာ ကျွန်တော့်အဖိုးက ပင်ကိုယ်အားဖြင့်ချမ်းသာခဲ့တယ်၊ စားနိုင်၊ သောက်နိုင်တဲ့ကြွယ်ဝတဲ့ မိသားစုဖြစ်ခဲ့ပါတယ်၊ ပြီးတော့ ဖခင်ကြီးက

ဘယ်လိုပြောခဲ့သလဲဆိုတော့ . . . ငါ့ကိုလူတွေကမော်လဝီမော်လာနာ ဒေါက်တာကိုမကြိုက်ဖူး ငါကမွလ္လာဟ်ဖြစ်ရတဲ့အပေါ်မှာ ဂုဏ်ယူတယ်။

ကျွန်တော်ဒီနေ့ ခင်ဗျားတို့ကို အဓိကပြောချင်တာက ကျွန်တော်တို့ကျောင်းသားတွေ စိတ်ကူးလေ့ရှိတာက ဇဝေဇဝါ ဖြစ်လေ့ရှိတာက ငါဟာတကယ်လို့ မော်လဝီမလုပ်ခဲ့မိရင်ကောင်းသား၊ ဒေါက်တာတို့ အင်ဂျင်နီယာတို့ လုပ်ခဲ့မိရင်ကောင်းသား။ ဒီအတွေးဟာ မထားသင့်မထားအပ်တဲ့အတွေးပါ။ ကိုယ်ရွေးချယ်တဲ့လမ်းကြောင်း အပေါ်မှာ ဂုဏ်ယူရမယ်။ ခေတ်ပညာ တတ်ခဲ့ရင်ကောင်းသား စသဖြင့် ယူကျုံးမရဖြစ်နေသူများရှိခဲ့ရင် အားပေးချင်လို့ဒီစကားကိုပြောရတာပါ။ ကျွန်တော်တို့ မှတ်သားထားရမှာက ကျွန်တော်တို့ကမော်လဝီမဟုတ်ဘူး၊ ကျွန်တော်တို့က မွလ္လာတွေဖြစ်တယ်ဆိုပြီးဂုဏ်ယူပါ။ တစ်ဦးတစ်ယောက်က ကျွန်တော်တို့ကို ဟေ့မွလ္လာလို့ပြောခဲ့ရင်စိတ်မဆိုးရဘူး၊ မွလ္လာပြောခဲ့လို့စိတ်ဆိုးခဲ့ရင် ကျွန်တော်တို့ဟာမွလ္လာဆိုတဲ့ဘွဲ့ကို စိတ်ပါလက်ပါ လက်မခံခဲ့တဲ့သ ဘောသက်ရောက်ပါတယ်။ ကျေကျေနပ်နပ်နဲ့ ဒီဘွဲ့ကိုလက်ခံရမယ်။

ကျွန်တော်တို့ကို ကျွန်တော်တို့ရဲ့အကာဗိရ်များက ဒီအတိုင်း မှာကြားထားပါတယ်။ ကျွန်တော်တို့က ကိုယ်၊ နှုတ်၊ နှလုံးသုံးပါးစလုံး ဒီလုပ်ငန်းအတွက်လှူလိုက်ရမယ်။ တစ်ကမ္ဘာလုံးမှာ အထူးသဖြင့် ကျွန်တော်တို့တတွေ တာဝန်ထမ်းဆောင်နေကြတဲ့ ဒေသမှာ အလွန်ရှုတ်ရှုတ်ချွန်ချွန်လုပ်ရမယ်။ ဒါမှလုပ်ငန်းတွင်ကျယ်မှာဖြစ်တယ်။ ပထမနေ့ကလည်း ကျွန်တော်ပြောခဲ့တယ် ဒီအလုပ်ကို ဗိုက် (ဝမ်းရေး) အတွက်မလုပ်ပါနဲ့၊ ဗိုက်အတွက်လုပ်မယ်ဆိုရင် ဒီအလုပ်လည်း ကြာရှည်ခံမှာ မဟုတ်သလို ကျွန်တော်တို့လည်းကြာရှည် လုပ်နိုင်မှာမဟုတ်ဘူး။ တကယ်လို့ ကျွန်တော် တို့ဒီအလုပ်ကိုသဘောပေါက် နားလည်ပြီး လုပ်မယ်ဆိုရင် ကျွန်တော့်ဖခင်အကြောင်းတစ်ခုကိုပဲ ကျွန်တော်နမူနာအနေနဲ့တင်ပြပါ့မယ်၊

ကျွန်တော့်ဖခင် အာလင်မ်ပြီးသွားတော့ ကျွန်တော့်အဘိုးက မင်းမော်လဝီပြီးသွားပြီ အင်္ဂလိပ်ကောလိပ်ကို ဆက်တက်ရမယ်လို့ ပြောတယ်၊ ကျွန်တော့်အဖေကပြင်းတယ် ပထမပိုင်းမှာတော့ အမျိုးမျိုးနားချတယ် နောက်ဆုံးဘယ်လိုမှပြောလို့မရတော့ ကျွန်တော့်အဘိုးက "မင်းကောလိပ်

မတက်ရင် ဒီအိမ်မှာလည်းမနေရဘူး" လို့ပြောလိုက်တယ်။ ပြောတဲ့အတိုင်းဘဲ ကျွန်တော့်ဖခင်က အိမ်ကဆင်းပြီး ဂျလာလ်အာဘားဒ် ဟဇရသ်မော်လာနာ မဆီဟူလ္လာဟ်ခါန်းဆွာဟစ်ဘ်ရဲ့ခါန်ကဟ်ကို ထွက်သွားခဲ့ပါတယ်။ ကျွန်တော့်အဖိုးနဲ့ ကျွန်တော့်ဖခင်ရဲ့ကြားမှာ (၃)နှစ်တိတိ အဆက်အသွယ်ပြတ်နေခဲ့ပါတယ်။ ကျွန်တော့်အဘိုးက ထပ်မံပြီးနားချဘို့ ကြိုးစားခဲ့သေးတယ်။ ဒါပေမဲ့အောင်မြင်မှုမရခဲ့ပါဘူး။ဒီနေရာမှာကျွန်တော် ပြောချင်တဲ့အချက်က ကျွန်တော့်ဖခင်က ဘယ်လောကီဆိုင်ရာတဲ့ဆုံးဖြတ်ချက်နဲ့ ဒီအလုပ်ကိုလုပ်ခဲ့တယ် ဆိုတာကိုပြောချင်တာပါ။ ကျွန်တော့်ဖခင်က ကျွန်တော့် အဖိုးကို ဖီဆန်ခဲ့တာမဟုတ်ပါဘူး အယူအဆမတူညီမှု တစ်မျိုးသာဖြစ်ခဲ့တာပါ။ မိမိဆရာသမားဆီက ဆည်းပူးခဲ့တဲ့သောက တစ်မျိုးဖြစ်ခဲ့ပါတယ်။ ဒီလိုနဲ့ဘဲနေခဲ့ တယ် အကြောင်းအရာ ကတော့တော်တော်ရှည်ပါတယ်၊

အချုပ်ပြောရရင် ပါကစ္စတန်ကိုပြောင်းလာတယ် သန်ဒိုအလ္လယာ ဆိုတဲ့နေ ရာမှာနေထိုင်ခဲ့တယ်။ ကျွန်တော့်အဖိုးအနေနဲ့ ကျွန်တော့် အဖေကိုဘယ်လိုမှနားချလို့မရနိုင်ကြောင်း အခိုင်အမာသိသွားခဲ့ပါတယ်။ သန်ဒိုအလ္လာယာကနေ ဒါရွလ်အုလူးမ်ကျောင်းကိုရွှေ့ပြောင်းခဲ့ပါတယ်၊ ကျွန်တော့်အဘိုးဟာ ကျွန်တော့်ဖခင်ကို တွေ့ဖို့လာလေ့ရှိခဲ့ပါတယ်၊ ကျွန်တော့် ဖခင်ဟာကျောင်းမှာ တစ်ခါတစ်လေ မင်္ဂရိဗ် အပြီးစာသင်ပေးရတယ်။ တစ်ခါတစ်လေ အီရှာအပြီးလည်းသင်ပေးရတယ်။ စာသင်ပြီးမိမိ အိပ်ခန်း ကိုပြန်တဲ့အခါ ကျွန်တော့်အဘိုးက ကျွန်တော့်ဖခင်ရဲ့ အိပ်ယာကိုခင်း ပေးနေတာ ကိုတွေ့ရတယ်။ ဒါကိုမြင်ပြီး ကျွန်တော့်ဖခင်က ပြေးပြေးပြီးဒီလို မလုပ်ဖို့တားမြစ်ပါတယ်။ ဖခင်တစ်ယောက်အနေနဲ့ ကျွန်တော့်အိပ်ယာ ကိုပြင်ဆင်ပေးတာ ကျွန်တော်စိတ်မကောင်းပါဘူးလို့ပြောရင် ကျွန်တော့်အဘိုး က ဘာပြောသလဲလို့ဆိုတာကို ပြောချင်လို့ ဒီအကြောင်းကို ပြောရခြင်းဖြစ် ပါတယ်။ ကျွန်တော့်အဖိုးက "ငါမင်းကိုပေးခဲ့တဲ့ဒုက္ခတွေကို ဖြေသိမ့်ဖို့နဲ့ ကဖ္ဖာရဟ်ဖြစ်ဖို့ မင်းကိုခိဒ်မဒ် လုပ်ရခြင်းဖြစ်တယ်" လို့ပြောလေ့ရှိတယ်။ မှတ်ထားပါ လူဟာရည်ရွယ်ချက် တစ်ခုကိုခိုင်ခိုင်မာမာချပြီး အလုပ်တစ်ခုခုကို ဇောက်ချလုပ်ပြီဆိုရင် နောက်ပြီးနိယသ်လည်းကောင်းခဲ့ရင် အခက်အခဲ တွေရဲ့ နောက်မှာ အလ္လာဟ်အရှင်မြတ်က အဲ့ဒီလူအတွက် လမ်းဖွင့်ပေးလေ့ရှိပါတယ်။

တကမ္ဘာလုံးမှာ(လမ်းမှာသူ)အနောက်ဝါဒ အနောက်ယဉ်ကျေးမှု လွှမ်းမိုးရေးဝါဒီတွေဟာ မိမိတို့ရည်မှန်းချက်များ အောင်မြင်ရေး ကြိုးပမ်းမှုတွေမှာ တော်တော်လေးအောင်မြင်ခဲ့တာတွေ့ရပါတယ်။ ထိုဝါဒီတွေဟာ ကမ္ဘာမြေပြင်မှာရှိတဲ့ အစ္စလာမ့်အထိမ်းအမှတ်၊ အထွဋ်အမြတ်များ၊ အခြေခံကြတဲ့အချက်အလက်များကို ပပျောက်၊ ပယ်ဖျက်၊ မှေးမှိန်အောင် ကြိုးပမ်းခဲ့ကြတဲ့ ဆောင်ရွက်ချက်တွေဟာ အလွန်အောင်မြင်ခဲ့တာကို တွေ့ရပါတယ်။ ခင်ဗျားတို့ဟာ မော်ရိုကို၊ တူနီးရှား၊ အဲဂျစ်၊ ဆီးရီးယား၊ ဆော်ဒီအရေးဗီယတ် အစရှိတဲ့ နိုင်ငံများရဲ့ သမိုင်းများကိုလေ့လာကြည့်ပါ။ ဒီလွှမ်းမိုးရေးဝါဒီများက တဖြည်းဖြည်း မိမိတို့ရည်ရွယ်ချက်ပန်းတိုင်များတိုင် အရောက်လှမ်းနိုင်ခဲ့ တာကို တွေ့ရပါလိမ့်မယ်။ အကယ်၍မွတ်စ်လင်မ်တစ်ဦးဟာ မက္ကာဟ်၊ မဒီနဟ် သို့မဟုတ် အရဗ်နိုင်ငံတစ်ခုခုမှာ မိမိသား၊ သမီးကို သာသနာ့ ပညာသင်ပေးလိုပါက မသင်ပေးနိုင်ပါ။ ဒါပေမဲ့ ပါကစ္စတန်၊ အိန္ဒိယနိုင်ငံများရဲ့ ဒါရုလ်အုလူမ်၊ မဇာဟိရုလ်အုလူမ် စတဲ့ကျောင်းများမှာ ပညာသင်ကြားပေး နိုင်ကြပါတယ်။ ဒီမျိုးဘာကြောင့် ဖြစ်ရသလဲဆိုတော့ အဲ့ဒီအရဗ်နိုင်ငံများဟာ အနောက်အုပ်စုရဲ့လွှမ်းမိုးမှုအောက်မှာ ရောက်နေခဲ့လို့ ဖြစ်ပါတယ်။ ဒီလွှမ်းမိုးရေးဝါဒီများရဲ့ ကျွန်ဖြစ်နေတာကြောင့် အဲဒီနိုင်ငံတွေရဲ့ အစိုးရ၊ ပြည်သူတွေဟာ မိမိတို့လွတ်လပ်စွာဆုံးဖြတ်ပိုင်ခွင့်ကနေ လက်မဲ့ဖြစ် နေကြပါပြီ။

သူတော်စဉ်အပေါင်းတို့ခင်ဗျား၊ တော်တော်အံ့သြစရာကောင်းတဲ့ အခြေအနေတွေဖြစ်ပေါ်နေပါတယ်။ (၁၉၈၀)မှာကျွန်တော်ဟာ မက္ကာဟ်မြို့ကို ဟဂျ်ပြုဖို့သွားခဲ့ပါတယ်။ ကျွန်တော်ဟာ (အဆ္ဒ်ရ်)နမာဇ်ဖတ်ပြီးရင် ကအ်ဗဟ်ကျောင်းတော်ရဲ့ ရွှေရေတလျှောက်ရှေ့မှာထိုင်လေ့ရှိတယ်။ ကျွန်တော်တို့နိုင်ငံကမတ်စ်အလဟ်တွေ လာရောက်မေးမြန်းနိုင်ရန် ရည်ရွယ်ပြီးထိုင်ခဲ့ပါတယ်။ တစ်နေ့မှာကျွန်တော့်ဆီကို လူတစ်ချို့ရောက်လာပါတယ် သူတို့ကပါကစ္စတန်နိုင်ငံသားတွေဖြစ်ပြီး ဩစတေးလျနိုင်ငံ (Australia) မှာနေထိုင်ကြောင်း ပြောပါတယ် ကျွန်တော်တို့ဟာ အမဲသား ရောင်းဝယ်ရေး လုပ်ငန်းကိုလုပ်ကြပါတယ်၊ ဒီမက္ကာဟ်မှာစား နေတဲ့အမဲသားတွေက ကျွန်တော်တို့နိုင်ငံက လာတာလို့သိရတယ်။

ကျွန်တော်တို့အနိုင်အမာပြောနိုင်တာက အဲ့ဒီ အသားတွေကဟလာလ် မဟုတ်ဘူး။ ဒီမှာလာတဲ့ ဟာဂျီတွေဟလာလ် မဟုတ်တဲ့အသားတွေ စားနေရတာကိုကြည့်ပြီးတော်တော် လေးစိတ်မကောင်းဖြစ်မိပါတယ်။ ကျွန်တော်တို့က ဒီကိစ္စကိုတာဝန်ရှိတဲ့သူတွေကိုတင်ပြခွင့်မရှိတဲ့အတွက် ဆရာကြီးအနေနဲ့ ဒီကိစ္စကိုဆောင်ရွက်ပေးပါလို့ပြောတယ်။ ကျွန်တော်က မိမိဟာလည်း ဟဂျ်ပြုဖို့ရောက်နေခြင်းဖြစ်တယ်။ တာဝန်ရှိသူတွေနဲ့ ဆက်သွယ်နိုင်မယ့် အရည်အချင်းမရှိပါဘူး၊ ဒါပေမဲ့ကျွန်တော်တတ်နိုင်တာ တစ်ခုတော့ရှိတယ် ကအ်ဗဟ်ကျောင်းတော် ရှေ့ဆောင် ဆရာကြီး(အဗ်ဒွလ္လာဟ် ဆိုဗိုင်ယဟ်) ကိုကျွန်တော်တင်ပြကြည့်မယ်လို့ပြောလိုက်ပါတယ်။

အဲ့ဒီလိုနဲ့ကျွန်တော်တို့ အိရှာနမာဇ်အပြီး ရှေ့ဆောင် ဆရာကြီးနဲ့ တွေ့ဖို့ကြိုးစားခဲ့တယ် ဒါပေမဲ့တွေ့ဖို့အခွင့်မရခဲ့ပါဘူး။ ကအ်ဗဟ်ကျောင်းတော် အဗ်ဒွလ်အဇီးဇ်ဆိုတဲ့ ဂိတ်နားရောက်တော့ စကားပြောခွင့်ကြုံတာနဲ့ ကျွန်တော်တို့က ဆရာကြီးကို စကားအနည်းငယ်ပြောစရာရှိတယ်လို့ ပြောတော့ဆရာကြီးက ဒီနေ့မအားလို့မနက်ဖြန်အိရှာ နမာဇ်အပြီး ဒီနေရာမှာဘဲစောင့်နေပါ။ ကျွန်တော်ခင်ဗျား တို့ကိုအိမ်ခေါ်သွားမယ်၊ အိမ်ရောက်မှခင်ဗျားတို့ စကားနားထောင်ပါမယ် လို့ပြောခဲ့ပါတယ်။ နောက်နေ့ရောက်တော့ ကျွန်တော်တို့ကိုဆရာကြီးဟာ မိမိရဲ့အလွန်ကောင်း တဲ့ကားနဲ့ အဇီဇီယဟ်ရပ်ကွက်မှာရှိတဲ့ မိမိနေအိမ်ခြံကြီးထဲကို ခေါ်သွားခဲ့ ပါတယ်။ ကျွန်တော်ဟာစိတ်ထဲမှာ အလ္လာဟ်အရှင်မြတ် ကျောင်းတော်ရဲ့ အိမာမ်ဆပ်ကိုဒီလိုဂုဏ်ပေးထားတဲ့အတွက် လွန်စွာပီတိဖြစ်ခဲ့ပါတယ်။ အိမ်ရောက်တော့ အခြားဖိတ်ကြား ထားတဲ့ဧည့်သည် တွေလည်း စားသောက်ဖွယ်ရာမျိုးစုံရှေ့မှာ ထိုင်နေတာကိုတွေ့ရပါတယ်။ ကျွန်တော်တို့ကို ဆရာကြီးက မိမိအနားမှာထိုင်စေပါတယ်။အဲ့ဒီအချိန်မှာ ကျွန်တော်တို့က ဆရာကြီးကို မိမိတင်ပြချင်တာကို စပြောပါတယ်၊ ကျွန်တော်တို့ကို (Australia) မှပုဂ္ဂိုလ်အချို့ကလာရောက်ပြောပြပါတယ်။ သူတို့က ဒီမှာရောင်းနေတဲ့အမဲ သားတွေအကြောင်း အသေအချာသိပါတယ်လို့ ပြောတယ်၊ ဒီအသားတွေဟာ သူတို့နိုင်ငံကဖြစ်ပြီးဟလာလ် မဟုတ်ဘဲ ဟရာမ်အသားတွေဖြစ်တယ်၊ မိမိနိုင်ငံ မှာ ဟလာလ်အသားစားရပေမယ့် မက္ကာဟ်မြို့မှာ ဟဂျ်ကာလမှာဟာဂျီတွေ

ပါကစ္စတန်၊ ဘင်္ဂလားဒေ့ရှ်နိုင်ငံများမှာအစွမ်းကုန် ကြိုးပမ်းလာတာတွေ့ရပါတယ်။

ဒါကြောင့် အခုအချိန်ဟာ အလွန်ကြီးမားတဲ့စမ်းသပ်မှုကာလဖြစ်ပါတယ်။ ကျွန်တော်အသေးစိတ်တင်ပြရန် အစီအစဉ်မရှိပါ။ အဓိကပြောချင်တာက ဒီစမ်းသပ်မှု(မက်လုံးပေး)ဟာ အရင်ကစမ်းသပ်မှု (ညှင်းပမ်းနှိပ်စက်)တွေထက်အလွန်ကို ပြင်းထန်ပါတယ်။ ဒီစမ်းသပ်မှု တွေဟာ အရင်ကစမ်းသပ်မှုတွေလိုမဟုတ်ဘဲ အခုစမ်းသပ်မှုတွေရှေ့မှာ ကြံ့ကြံ့ခံနိုင်ဖို့ခက်ခဲလှပါတယ်။

ကျွန်တော်ခင်ဗျားတို့ကို အဓိကပြောချင်တာက ဒီလှည့်ဖျားမှုတွေရှေ့မှာ ကြံ့ကြံ့ခံပြီး ကျွန်တော်တို့အကာဗိုရ်တွေရဲ့လမ်းစဉ်ကို ကျင့်သုံးကြပါ။ စားရသည်ဖြစ်စေ၊ မစားရသည်ဖြစ်စေ၊ လစာရသည်ဖြစ်စေ၊ မရသည်ဖြစ်စေ၊ ရာသီဥတုကောင်းသည်ဖြစ်စေ၊ မကောင်းသည်ဖြစ်စေ အခြေအနေတိုင်းမှာ ကျွန်တော်တို့ဟာ မိမိတို့လုပ်ငန်းကို လုပ်ဆောင်နေရမှာဖြစ်တယ်။ ရန်သူရဲ့နှိပ်စက်မှုအမျိုးမျိုးဟာ ကျွန်တော်တို့ကို လမ်းမှန်တရားကနေ ဘယ်တော့မှ လမ်းလွဲအောင်မလုပ်နိုင်ခဲ့သလို သူတို့ရဲ့အလှအပ ဒုနိယာရဲ့စည်းစိမ်တွေဟာလည်း ကျွန်တော်တို့ကို လမ်းမှန်ကနေ လွဲချော်အောင်မလုပ်ပါစေနဲ့။ ကျွန်တော်တို့အနေနဲ့ မိမိတို့လမ်းမှန်ပေါ်မှာ ကြံ့ခိုင်စွာလျှောက်လှမ်းနေဖို့ လွန်စွာအရေးကြီးပါတယ်။ ကျွန်တော်အရင်က ပြောခဲ့ပါတယ်။ ဒီမပ်ကဲသဗ်လမ်းစဉ်ဟာ အဓိကကျတဲ့လုပ်ငန်း တစ်ခုဖြစ်ပါတယ်။ ဒီမပ်ကဲသဗ်မှာမှ ပြုပြင်လို့မရခဲ့ရင် နောက်ဆိုဘယ် လိုမှပြုပြင်လို့ရမှာမဟုတ်တော့ဘူး။

မနှစ်က ကျွန်တော်မပ်ကဲသဗ်နဲ့ပတ်သက်ပြီး စကားပြောခွင့် ရခဲ့တုန်းကပြောခဲ့ပါသေးတယ်။ မပ်ကဲသဗ်လုပ်ငန်းဟာ သာမန်အလုပ်မဟုတ်ပါဘူး။ ကျွန်တော်ပြောခဲ့တာက ဟာဇရသ် ရှားဟ်အိဒ်စ္မာအီလ်ရှဟီးဒ် ၊ဟာဇရသ်စိုင်ယဒ် အဟ်မဒ် ရှဟီးဒ် ဆရာသခင်ကြီးများဟာ အင်္ဂလိပ်ကိုတော် လှန်ဖို့ဆုံးဖြတ်ပြီးနောက် အိန္ဒိယနိုင်ငံအနှံ့ကိုခရီးထွက်ခဲ့ပြီး တစ်နိုင်ငံလုံးမှ အာလင်မ်ပညာရှင်တွေ လူမွန်လူမြတ်တွေကို စုစည်းခဲ့ပြီး လုပ်ငန်းကို စခဲ့ပါတယ်။ ထို့နောက် ထိုပုဂ္ဂိုလ်များအတွေးပေါ်လာတာက အကယ်၍ အလ္လာဟ်အရှင်မြတ်ဟာ ကျွန်ုပ်တို့ရဲ့ဒုအာကိုလက်ခံပြီး ကျွန်ုပ်တို့အားလုံးကို ရှဟာဒသ်ပေးလိုက်ရင်

အိန္ဒိယမွတ်စလင်မ်များရဲ့ အနာဂတ် သာသနာရှင် သန်ရေးကိစ္စဟာ တော်တော်လေးထိခိုက်နိုင်တယ်။ အဲဒီလိုအတွေးပေါ်လာပြီး နောက်ပိုင်းဒီပုဂ္ဂိုလ်တွေဟာ (၃)ရက်တိုင်တိုင် တိုင်ပင်ဆွေးနွေးခဲ့ကြတယ်။ အကယ်၍ဇိဟိုစစ်ပွဲမှာ အားလုံးကျဆုံးခဲ့ရင် အိန္ဒိယမွတ်စလင်မ်တွေရဲ့ရှေ့ရေး ကိုဘယ်လိုကာကွယ်ကြမလဲ၊ (၃)ရက်တိတိဆွေးနွေး ပြီးဆုံးဖြတ်ကြတာ ကတော့ ဇိဟိုထဲကပုဂ္ဂိုလ်တစ်ယောက်ပြန်သွားပြီး အဲဒီပုဂ္ဂိုလ်ဟာ မွတ်စလင်မ် တွေရဲ့ရှေ့ရေးကို ထိန်းသိမ်းဖို့တာဝန်ပေးရမယ်။ အဲဒီနောက်ထို ပုဂ္ဂိုလ်ကိုခေါ်ပြီး မိမိနေရပ်သို့ပြန်သွားဖို့ ပြောခဲ့တယ်။ ထိုပုဂ္ဂိုလ်ဟာ ဘယ်လောက်အရေးပါပြီး ဘယ်လောက်ကြီးကျယ်သလဲဆိုတာ ခန့်မှန်းနိုင်ပါတယ်။

အဲဒီပုဂ္ဂိုလ်ရဲ့နာမည်ကတော့ မီယာနိကြီး နူးရ်မုဟာမ္မဒ်ဂျန်ဂျာနဝီ သခင်ဖြစ်ပါတယ်။ ထိုပုဂ္ဂိုလ်ဟာ မိမိဒေသ ဂျလာလ်အာဗာဒ်၊ လိုဟာရီသို့ ပြန်ရောက် သွားပြီး အလိဖ်၊ ဘာ၊ သာ၊ ဆာ မပ်ကဲသဗ်လုပ်ငန်းကို စခဲ့ပါတယ်။ ဗိုခါရီကျမ်း၊သရ်မေဇီကျမ်း သင်ပေးခဲ့သည်မဟုတ်ပါ။ သူစခဲ့တဲ့လုပ်ငန်း ဟာအိန္ဒိယမွတ်စလင်မ်တွေရဲ့ သာသနာရှင်သန်ရေး၊ ယုံကြည်ချက်မှန်ကန်ရေး အတွက် အဓိကကျတဲ့ လုပ်ငန်း တစ်ခုဖြစ်ပါတယ်။

ဟဇရသ်ဟာဂျီအိမ်ဒါဒုလ္လာဟ် မုဟာဂျိရ်မက္ကီ(ﷺ)သခင်ကြီးရဲ့ ရှိက်ခ် ဟဇရသ်အဗ်ဒုလ်ဝလီးဒ်အဗ်ဂါနီ သခင်ကွယ်လွန်ပြီးနောက်ပိုင်း ဟာဂျီအိမ်ဒါဒုလ္လာဟ်သခင်ကြီးက တမန်တော်မြတ်ﷺကို အိပ်မက်မက်ခဲ့တယ်။ တမန်တော်မြတ်ﷺက ဟာဂျီဆပ်ကို ပုဂ္ဂိုလ်တစ်ဦးဘက်ကိုညွှန်ပြပြီး ထိုပုဂ္ဂိုလ်နှင့် ဗိုင်အသ်ပြုရန် မှာကြားခဲ့တယ်။ တမန်တော်မြတ်ﷺဟာ ထိုပုဂ္ဂိုလ်အမည်နဲ့ နေထိုင်ရာဒေသကို မပြောခဲ့ပါ။ အဲဒါနဲ့ ဟာဂျီဆပ်ကြီးက တမန်တော်မြတ်ﷺညွှန်ပြသောပုဂ္ဂိုလ်ကို ရှာတကာလိုက်ပြီး ရှာခဲ့ပါတယ်။ တစ်နေ့ဟာဂျီဆပ်ကြီးရဲ့တပည့်တစ်ဦးက ဟာဂျီဆပ်ကိုပြောခဲ့တယ်။ ကျွန်တော်တို့ ရွာအနီးရှိ လိုဟာရီရွာမှာမီယာနိကြီးအမည်ရှိ ပုဂ္ဂိုလ်တစ်ဦး မပ်ကဲသဗ်သင်ပေးနေတာရှိတယ်။ ဆရာကြီးတွေ့ချင်ရင် ကျွန်တော်လိုက် ပို့ပေးမည်လို့ ပြောတော့ ဆရာကြီးကကောင်းပြီ ဆိုပြီး လိုက်ပို့နိုင်းတယ်။ ထို့နောက် ဟာဂျီဆပ်ဟာ ထိုရွာကိုရောက်ခဲ့ပြီး ဗလီထဲမှာ ကလေးတွေကို အလိဖ်၊ဘာ၊သာ၊ဆာ သင်ကြားပေးနေတဲ့ မီယာနိကြီး ဂျန်ဂျာနဝီ

ကိုတွေ့တာနဲ့ပြေးဖက်လိုက်ပြီ၊ မိမိဟာ တမန်တော်မြတ် ﷺ ကို အိပ်မက်တွင် မြင်တွေ့ခဲ့ကြောင်း၊တမန်တော်မြတ် ﷺ ဟာ လူကြီးမင်း ထံဗိုင်အသ်လုပ်ရန် လူကြီးမင်း ဘက်သို့ညွှန်ပြပြီး မှာကြားခဲ့ကြောင်း၊ ဝမ်းသာအားရပြောပြရာ မိယာန်ကြီးဆာဗ်မှ လက်ခံခဲ့ပြီး ဗိုင်အသ် ပေးခဲ့ပါတယ်။

ပြီးနောက် လူကြီးမင်းတို့သိတဲ့အတိုင်း ဟာဂျီဆွာဟိဗ်ထံမှ ဟဇရသ်မော်လာနာကာစင်မ် နာနောင်သဝီ၊ ဟဇရသ်မော်လာနာ ရရှိုးဒ် အဟ်မဒ် ဂန်ဂိုဟီ၊ ဟဇရသ်မော်လာနာ မဟ်မူးဒ်ဟာစံ၊ ဟဇရသ်မော်လာနာ ဟူစိုင်န်အဟ်မဒ် မဒနီ၊ ဟဇရသ်မော်လာနာ အရှ်ရဖ်အလီ ထာနဝီသခင်ကြီး များဟာ ဗိုင်အသ်ယူခဲ့ကြတာ ဖြစ်ပါတယ်။ အဲဒီနောက်ပိုင်း စိလ်စိလာဟ်ကို လူကြီးမင်းတို့အသိပါဘဲ။ ဒါဟာဘာလဲ၊ ဒါဟာမပ်က်သဗ်ရဲ့လမ်းစဉ်၊ ကျွန်တော်ထပ်ပြောလိုတာက ဒါဟာ ကမ္ဘာတစ်ခုလုံးရဲ့မွတ်စလင်မ်တွေကို စောင့်ရှောက်ဖို့လမ်းစဉ်ဘဲဖြစ်တယ်။ ယနေ့ကမ္ဘာ့အရှေ့အနောက် အရပ်ရပ်မှာ ဒါရှလ်အိုလူးမ် ဒီယိုဗန်ဒ်ရဲ့ ဖိုက်ဇ်တွေကို လူကြီးမင်းတို့တွေ့ရလိမ့်မယ်။ လက်ခံသည်ဖြစ်စေ၊ လက်မခံသည်ဖြစ်စေ ဒါပေမယ့် ဒါဟာတကယ့် လက်တွေ့ပဲ ဖြစ်တယ်။ ဒါဟာမိယာန်ကြီးနဲ့ မိယာန်ကြီးဆီမှာ ဗိုင်အသ်ယူခဲ့တဲ့ ဖော်ပြပါဆရာကြီးများရဲ့ကြိုးပမ်းမှု ဖြစ်တယ်။

မပ်က်သဗ်လုပ်ငန်းဟာ အလွန်ကြီးကျယ်တဲ့ လုပ်ငန်းဖြစ်တယ်။ ဒီလုပ်ငန်းကို လုံးဝအထင်မသေးပါနဲ့။လူကြီးမင်းတို့ဟာ မပ်က်သဗ်လုပ်ငန်းရဲ့ တာဝန်ခံတွေဖြစ်တယ်။ အလွန်ကြီးမားတဲ့တာဝန်ကို ယူထားသူတွေဖြစ်တယ်။ ကလေးတွေကို အလိဖ်၊ ဘာ၊ သာ၊ ဆာ သင်ပေးသလိုတမန်တော်မြတ် ﷺ ရဲ့လမ်းစဉ်တွေကို သေသေချာချာသင်ကြားပေးရမှာ ဖြစ်တယ်။ ကျွန်တော်ကောင်းကောင်းမှတ်မိပါတယ်။ ကျွန်တော်တို့မပ်က်သဗ်ဖတ်ချိန်က ကျွန်တော်တို့ဆရာတွေဟာ ကျွန်တော်တို့ အကျိ၊ ဘောင်းဘီ၊ လက်သည်း၊ ခြေသည်းပါမကျန် စွန္နသ်နဲ့ ညီမညီ အမြဲစစ်ဆေးလေ့ရှိတယ်။ တစ်နေ့ ကျွန်တော် အိန္ဒိယနေဗ္ဗာမွဒ်ိုးနိမှာ မော်လာနာအိုဗိုင်ဒွလ္လာဟ် ဗလ်ယာဝီ ရဲ့ ဧည့်သည်အဖြစ် ဆရာကြီးရဲ့အခန်းမှာ ရှိနေခဲ့ပါတယ်။ ဆရာကြီးက ကျွန်တော့ကိုမေးတယ်၊ မော်လဝီဆပ်၊ ဘယ်မှာ ဝိုဇူလုပ်သလဲ၊ ကျွန်တ်က ဘုံဘိုင်မှာဝိုဇူလုပ်ပါတယ်လို့ဖြေလိုက်တယ်။။ မရဲကာဇ်မှာဝိုဇူပြုဖို့ဝိုဇူကန်နဲ့

ဘုံဘိုင်နှစ်မျိုးစလုံးရှိပါတယ်။ ကျွန်တော့်အဖြေကိုကြားတော့ ဆရာကြီးက (အင်နာလိလ္လာဟ်) သုံးကြိမ်ဖတ်ပါတယ်။

ဆရာကြီး(အင်နာလိလ္လာဟ်)(၃)ကြိမ်ဖတ်တော့ ကျွန်တော် တော်တော်လေးစိုးရိမ်ခဲ့ပြီး ကျွန်တော်ဘာအပြစ်များလုပ်မိလိုက်ပါသလဲလို့ စဉ်းစားနေမိပါတယ်။ ကျွန်တော်ကဆရာကြီးကို တင်လျှောက်သည်မှာ ဆရာကြီးကျွန်တော်အမှားအယွင်းတစ်ခုခုလုပ်ခဲ့မိရင် ကျွန်တော့်ကိုပြုပြင် ပေးပါလို့ပြောတော့ ဆရာကြီးပြန်ပြောတဲ့စကားက လူတိုင်းအတွက် တော့မဟုတ်ဘူး။ ဝါရင့်သမ္မာရင့်တွေကိုပဲ ပြောရမယ့်စကား ဖြစ်တယ်။ ဆရာကြီးကပြောတယ်။ ဘုံဘိုင်မှာဝိုဇူလုပ်ရင် အချင်းချင်းမှာ စုစည်းမှုမဖြစ် နိုင်ဘူး။ ဘုံဘိုင်တွေကတစ်ခုစီ၊ တစ်ခုစီဖြစ်နေလို့ ၊ဝိုဇူကန်မှာ ဝိုဇူလုပ်ရင် အချင်းချင်းမှာစုစည်းမှုရရှိမှာဖြစ်တယ်။ လူကြီးမင်းတိုစဉ်းစားကြည့်ပါ။ ကျွန်တော်တို့ဆရာသခင်ကြီးတွေရဲ့အမြင်ဟာ အလွန်နက်ရှိုင်းကျယ်ပြန့်ပြီး အလွန်သေးငယ်လှတဲ့ ကိစ္စလေးကအစ လေးလေးနက်နက်စဉ်းစားကြတယ်။ ယခုလူကြီးမင်းတို့ဟာလည်း မိမိတို့ဆရာသခင်တွေဆီက သင်ယူခဲ့တာ တွေအားလုံးကို ကလေးတွေကို သင်ပေးရမှာဖြစ်ပါတယ်။ ကလေးတွေရဲ့အ နေအထိုင် အစားအသောက် ကဏ္ဍများနှင့် အိမ်တွင်းအိမ်ပြင်ရေးတို့ရဲ့ သွားလာ လှုပ်ရှားမှုများကိုပါမကျန် တမန်တော်မြတ် ﷺ ရဲ့လမ်းစဉ်နှင့်ကိုက်ညီမှုရှိ/မရှိကို ဂရုစိုက်ပေးရမှာဖြစ်ပါတယ်။

လူကြီးမင်းတို့ဟာ ဒီကလေးတွေကို မပ်ကဗ်သဗ်မှာ ပြုပြင်ပေးလိုက်ရင် တဖြည်းဖြည်း မွတ်စ်လင်မ်အသိုင်း အဝိုင်းတစ်ခု လုံးပြုပြင်မှုရရှိမှာဖြစ်ပါတယ်။ အကယ်၍ကလေးတွေကို မပ်ကဗ်သဗ်မှာမပြုပြင်ပေးလိုက်ဘူး ဆိုရင် မွတ်စ်လင်မ်အသိုင်းအဝိုင်း တစ်ခုလုံးရောဂါတွေကပ်စွဲပြီး ပျက်စီးမှုနှင့်ရင် ဆိုင်ကြရမှာဖြစ်ပါတယ်။ ဒို့ကြောင့် မပ်ကဗ်သဗ် လုပ်ငန်းလုပ် ဆောင်သူ တွေအနေနဲ့အလွန်ကို ဂရုတစိုက်လုပ်ဆောင်ရမှာဖြစ်ပါတယ်။

وآخر دعوٰينا ان الحمد لله رب العالمين

# အဖွေးဖြင့်အပင်သီလို့ ဖြေတောင်ဖြောက်ပေးကြစို့

၁၈-၄-၂၀၁၂(ဗုဒ္ဓဟူးနေ့)ဟောကြားသည်

الحمد لله نحمده ونستعينه ونؤمن به ونتوكل عليه ونعوذ بالله من شرور انفسنا ومن سيئات اعمالنا من يهده الله فلا مضل له ومن يضلله فلا هادى له ونشهد ان لا اله الا الله وحده وحده وحده لا شريك له ونشهد ان سيدنا وسندنا ومولانا محمدا عبده ورسوله الذى ارسله بشيرا ونذيرا وداعيا الى الله باذنه وسراجا منيرا امابعد فاعوذ بالله من الشيطان الرجيم

بسم الله الرحمن الرحيم

قُلْ إِنْ كُنْتُمْ تُحِبُّونَ اللَّهَ فَاتَّبِعُونِي يُحْبِبْكُمُ اللَّهُ وَيَغْفِرْ لَكُمْ ذُنُوبَكُمْ وَاللَّهُ غَفُورٌ رَحِيمٌ ۝

အပဉ်ကြည်ညိုလေးစားအပ်တဲ့ အာလင်မ်သာသနာ့ ပညာရှင်များနှင့် အစီအပဉ်ဖြစ် မြောက်ရေးကော်မတီဝင်များခင်ဗျား . . . ကျွန်တော်တို့ရဲ့ဒီလုပ်ငန်းစဉ်နဲ့ ဒီအတွက်ကြိုးစားအားထုတ်မှုအားလုံးကို အလ္လာဟ်အရှင်လက်ခံကဗူလ်ပြုတော်မူပါစေ။ ဒီမပ်က်သဗ်လုပ်ငန်းစဉ် ဖြစ်မြောက်ဖို့ဆိုတာ တော်တော်ကိုပင်ပင်ပန်းပန်းနဲ့ ကြိုးစားအားထုတ်ရတဲ့ ကိစ္စတစ်ခုဖြစ်ပါတယ်။ အဲဒါတွေကိုဆောင်ရွက်ဖို့အတွက် အချို့ပုဂ္ဂိုလ် တွေကို

အလ္လာဟ်အရှင်မြတ်ကရွေးချယ်ချီးမြှောက်ခဲ့တယ်။ အဲဒီပုဂ္ဂိုလ်တွေရဲ့ ရွမ်းဆောင်မှုတွေကြောင့် ဒီလိုမုဇာကရဟ် အစီအစဉ်တွေ၊ မပ်ကိသဗ် လုပ်ငန်းစဉ်တွေဟာ အခုိင်းအတာတစ်ခုအထိ ဖြစ်မြောက်အောင်မြင်လျက်လည်း ရှိပါတယ်။

မိတ်ဆွေများခင်ဗျား . . . ကျွန်တော်တို့အားလုံးဟာ အစ္စလာမ်ဘာသာဝင်တွေဖြစ်ကြပါတယ်။ အဲဒီအပေါ်မှာ အလ္လာဟ်အရှင်မြတ်ကို ကျွန်တော်တို့ဘယ်လောက်ပဲ ကျေးဇူးတင်တင်၊ တင်လို့ပြီးမှာမဟုတ်ပါဘူး။ ဒီဒွန္နယာလောကကြီးမှာ အလ္လာဟ့်အမိန့်ဖီဆန်မှု၊ မနာခံမှု၊ သွေဖည်ငြင်းဆန်မှုနဲ့ မတရားညှင်းပန်းနှိပ်စက်မှုတွေနဲ့ပြည့်နှက်သွားလို့ရှိရင် အလ္လာဟ်အရှင်မြတ်က မိမိရဲ့လုပ်ရိုးလုပ်စဉ်၊ လုပ်ထုံးလုပ်နည်းအရ မိမိရဲ့ဗန္ဒဟ်ကျေးကျွန်တွေကို သနားသောအားဖြင့် ဒီကမ္ဘာကိုတမန်တော်တွေ စေလွှတ်လေ့ရှိတယ်။ ကျွန်တော်တို့အားလုံးသိရှိထားပြီးဖြစ်တဲ့အတိုင်း ကျွန်တော် တို့ရဲ့ အကီဒဟ်ယုံကြည်ချက်အရ တမန်တော် မုဟမ္မဒ် သခင် ﷺ ဟာ နောက်ဆုံးနဗီတမန်တော်ချုပ်ဖြစ်တယ်။ တမန်တော်မြတ်အပေါ်မှာ နဗူဝသ်နဲ့ရိစာလသ်အစဉ်အဆက်ကို ပိတ်သိမ်းခဲ့ပြီးဖြစ်တယ်။ တမန်တော် မြတ် ﷺ နောက်ပိုင်း အခုဘယ်နဗီ၊ဘယ်ရစူလ်မှ လာစရာအကြောင်းမရှိ တော့ဘူး။ အဲဒီတော့ခင်ဗျားတို့စဉ်းစားကြည့်ပါ။ ကျွန်တော်တို့ရဲ့နောက်ဆုံးနဗီတမန်တော်ချုပ် မပွင့်ပေါ်မီ ဒီကမ္ဘာလောကကြီးမှာ ဘယ်လောက်အထိ အလ္လာဟ်အမိန့်မနာခံမှုတွေဖြစ်နေမလဲဆိုတာ စဉ်းစားကြည့်ပါ။ ဒွန္နယာတစ်ခုလုံးကောင်းမှုအစုစုကနေ ဗလာနတ္တိဖြစ်နေခဲ့တယ်။

တမန်တော်မြတ် ﷺ ဘယ်နေရာ ဘယ်ဒေသမှာ ကြွရောက်ပွင့်ပေါ်တော်မူခဲ့သလဲဆိုတဲ့သမိုင်းကို ခင်ဗျားတို့အားလုံးသိကြပါတယ်။ အဲဒီနေရာကို မက္ကာဟ်ရွှေမြို့တော် လို့ခေါ်တယ်။ မက္ကာဟ်ရဲ့အခြေအနေကို တင်ပြရရင် အဲဒီခေတ်အဲဒီအခါက မိန်းကလေးမွေး ရင်အရှင်လတ်လတ် မြေမြှုပ်သတ်နေကြတယ်။ ကလေးတွေခမြာ သူတို့အဖေကိုအော်အော်ပြီး ခေါ်နေကြ

တယ်။ ဒါပေမယ့် သူတို့အဖေတွေရဲ့နှလုံးသားတွေဟာ ကျောက်ခဲလို မာကျောကုန်ကြပြီး လုံးဝသနားတတ်တဲ့ စိတ်တွေ၊ စာနာတတ်တဲ့နှ လုံးသားတွေ မရှိကြတော့ဘူး။ ကိုယ်တိုင်မိမိတို့လက်တွေနဲ့ပဲ မိမိတို့ရဲ့ရင်သွေးငယ်တွေကို အရှင်လတ်လတ်မြေမြှုပ် သင်္ဂြိုလ်ပစ်ခဲ့ကြတယ်။ ပြီးတော့ဘာမှ မပြောပလောက်တဲ့ ကိစ္စတွေ၊ ပြဿနာအသေးအမွှားလေးတွေနဲ့ အချင်းချင်း မှာစစ်ပွဲတွေ ဖြစ်လိုက်ကြတာ၊ရာစုနှစ်တစ်ခုပြီးသွားတာတောင်မှ အဲဒီစစ်မီး မငြိမ်းခဲ့ဘူး။ အဲဒီလို ဘာမှအကျိုးမရှိ အရည်မရအဖတ်မရတဲ့ စစ်ပွဲမှာလူတွေ သိန်းနဲ့ချီ သန်းနဲ့ချီ သေဆုံးခဲ့ကြရတယ်။

သူတို့ရဲ့အသိတရားခေါင်းပါးမှု ပညာမဲ့မှုကိုလည်း ကြည့်စမ်းပါဦး။ ကျောက်တုံးကျောက်ခဲတွေကို စဂျဒဟ်လုပ်နေကြတယ်။ လမ်းသွားလမ်းလာရင်းနဲ့ ကျောက်ခဲတုံးလှလှလေးတွေ့ရင်တောင်မှ အဲဒါကို တန်ခိုးရှင်ထင်ပြီး စဂျဒဟ်လုပ်တတ်ကြတယ်။ ပြီးတော့ အဲဒီလိုလုပ်ပြီး သိပ်မကြာခင်မှာပဲ အပေါ့အလေး သွားချင်လာပြီဆိုရင် အဲဒီကျောက်ခဲ၊ မြေကြီးခဲနဲ့ပဲ သုတ်သင်ကြတယ်။ သန့်စင်မှုရယူကြတယ်။ အဲဒါသူတို့ရဲ့ ကမ်းကုန်အောင် ပညာမဲ့ခြင်းဘဲ။ အဲဒီလို အတိုင်းထက်အလွန် ဆိုးသွမ်းပျက်စီးယိုယွင်း နေတဲ့ လူမှုပတ်ဝန်းကျင်မှာ တမန်တော်ချုပ် မုဟမ္မဒ် သခင် ﷺ ကြွရောက်ပွင့်ပေါ်တော်မူခဲ့တယ်။ ပြီးတော့ပထမ ဦးဆုံးလုပ်ခဲ့တဲ့အလုပ်က အီမာန်ဘက်ကို ဒအ်ဝသ်ပေးဖိတ်ခေါ်ခဲ့တယ်။

"အို-လူတို့ . . . အလ္လာဟ်အရှင်မြတ်အား ကိုးကွယ်ရာအရှင်အဖြစ်တစ်ပါးတည်း သောအရှင်အဖြစ်လက်ခံလိုက်ပါ။အသင်တို့အောင်မြင်သွားလိမ့်မယ်။ အဲဒီလို ဒအ်ဝသ်ပေးဖိတ်ခေါ်ရာကနေ တမန်တော်မြတ် ﷺ အပေါ်မှာ အီမာန်လက်ခံလာတဲ့ပုဂ္ဂိုလ်အချို့ကို သာသနာ့ရေးရာတွေ သင်ကြားပေးဖို့အတွက် မက္ကာဟ်မြို့မှာပညာရေးနဲ့ပတ်သက်ပြီး ဘာမှလွယ်ကူမှုတွေ၊ အခွင့်အလမ်းတွေ မရှိတဲ့ကြားကနေ 'ဒါရေအရ်ကမ်' ဆိုတဲ့နေရာမှာ မပ်ကသင်္ဂကျောင်းပုံစံမျိုးနဲ့ ဖွင့်လှစ်ပြီးသင်ကြားပေးခဲ့တယ်။

အဲဒီ အာစွလာမ့် ပထမဦးဆုံး မဒရီစာ၊ ပထမဦးဆုံး မပ်က်သဗ်ဘဲ။ အဲဒီကျောင်းမှာ တမန်တော်မြတ် ﷺ ကိုယ်တော်တိုင်ဆရာအဖြစ်နဲ့ အီမာန်သက်ဝင်ယုံကြည်လာတဲ့ ဆွဟာဗဟ်သာဝကကြီးတွေကို သူတို့ရဲ့ပညာရေးနဲ့စာရိတ္တရေးရာတွေ စတင်ပြုပြင်ပေးခဲ့တယ်။ လုံးဝအခြေခံကျတဲ့ ပညာရေးနဲ့စာရိတ္တပိုင်းဆိုင်ရာပြုပြင်ရေးတွေ အဲဒီကနေပဲ စလုပ်ခဲ့တယ်။

အဲဒီကျောင်းမတိုင်ခင်က ပညာရေးဆိုရင်ဗလာနတ္တိနဲ့ ဖန်ဆင်းရှင်ကိုငြင်းတဲ့မိုက်သားတွေနဲ့ ကမ္ဘာကြီးဟာ အမှောင်ထုလွှမ်း နေခဲ့တယ်။ ဘယ်သူမှဘာဆိုဘာမှ မတတ်ကြဘူး။ ဒါပေမယ့် ရစူလ်တမန် တော် ﷺ ရဲ့ သင်ကြားပို့ချပေးမှု၊ သွန်သင်ဆုံးမမှုတွေ၊ ပြီးတော့အဲဒါ တွေဟာလည်း ပေါ်ပေါ်ထင်ထင်လုပ်ခဲ့ ရတာမဟုတ်ဘူး။ လူမသိ၊သူမသိပုံစံတွေနဲ့လုပ်ခဲ့တာဖြစ်တယ်။ ဟဇရသ်အုမရ် ؓ သခင်အီမာန်လက်ခံခဲ့ရတဲ့ အကြောင်းရင်းကို ခင်ဗျားတို့သိကြလိမ့်မယ်။

ဟဇရသ်အုမရ် ؓ သခင်အီမာန်လက်ခံခဲ့တုန်းက သူဟာ တမန်တော်မြတ် ﷺ ကို (နအူးဇုဗိလ္လာဟ်)သတ်ချင်နေခဲ့တယ်။ ပြီးတော့ အဲဒီရည်ရွယ်ချက်နဲ့ပဲသူ့အိမ်ကနေ ဓါးဆွဲပြီးထွက်ခဲ့တယ်။ လမ်းတစ်ဝက်ရောက်တော့ လူတစ်ယောက်ကမေးတယ်။ အို...အုမရ်၊ဘယ်သွားမလို့လဲ။ အရမ်းမာန်တွေတက်နေပါလား။ ဒေါသတွေလည်းထွက်လို့ပါလား။ ဘာလုပ်မလို့လဲ။ အဲဒါနဲ့သူကဘာပြောလဲဆိုတော့ "ဒီနေ့ ငါတမန်တော်မုဟမ္မဒ် ﷺ ကိုသတ်ဖို့ရည်ရွယ်ပြီး အိမ်ကနေထွက်လာခဲ့တယ်။

အဲဒါနဲ့အဲဒီပုဂ္ဂိုလ်ကဘာပြောလဲဆိုတော့ ခင်ဗျား မုဟမ္မဒ် ﷺ ကိုသတ်မယ့်ကိစ္စခဏထားဦး။ အရင်ဆုံးခင်ဗျားညီမနဲ့ယောက်ဖအခြေအနေဘယ်လိုရှိလဲဆိုတာ သူတို့အိမ်ကိုသွားကြည့်ဦး။ " အဲဒီအိမ်မှာ ကောဘာဖြစ်နေလို့လဲ။ ဘာမှမဖြစ်ဘူး။ အဲဒီမှာမပ်က်သဗ်ဘဲဖွင့်ထားတာ။ အဲဒီမှာ ဟဇရသ်အုမရ် ؓ ရဲ့ ယောက်ဖနဲ့ညီမ ကုရ်အာန်ကျမ်းတော်မြတ်

သင်ယူနေကြတယ်။ အဲဒါနဲ့ဟဇရသ်အုမရ်ﷺလည်း သူ့ညီမ အိမ်ဘက်ကို ခြေဦးလှည့်လိုက်တယ်။ အိမ်ကိုလည်းရောက် ရောအဲဒီမှာကုရ်အာန်သင်ပေးသင်ယူ လုပ်နေတဲ့ သင်တန်းဖွင့်ထားတာကို တွေ့လိုက်ရတယ်။ အဲဒါကိုလည်းတွေ့ရော၊ဟဇရသ်အုမရ်ﷺက သူ့ညီမကို ဒေါသတကြီးနဲ့ဆံပင်ဆွဲပြီး ကြမ်းပြင်ပေါ် တရွတ်တိုက်ဆွဲသွားတယ်။ ပြီးတော့ဆောင့်တွန်းပြီးတော့ "မင်း ဒီကုရ်အာန်ကိုစွန့်လွှတ်ရမယ်" ဆိုပြီး ပြောတယ်။

အဲဒါနဲ့ဟဇရသ်အုမရ် ﷺ ရဲ့ညီမက "အစ်ကိုကြီး၊ အစ်ကိုကြီးလည်းခသ်သွားဗ်ရဲ့သားဖြစ်သလို ညီမလေးလည်း ခသ်သွားဗ်ရဲ့သမီးဖြစ်တယ်၊ ညီမလေး သေဆိုလည်း အသေခံလိုက်မယ်။ ဒါပေမယ့်ဒီကျမ်းမြတ်ကုရ်အာန်ကိုတော့ ဘယ်တော့မှလက်လွှတ်မှာမဟုတ်ဘူး။ ဆိုပြီးပြောလိုက်တယ်။ မိန်းမတစ်ယောက်ရဲ့ပါး စပ်ကနေဒီလိုယုံကြည်မှု အပြည့်နဲ့ပြောနေတဲ့စကား ဘွေကိုကြားပြီးတော့ ဟဇရသ်အုမရ် ﷺ တော်တော်အံ့အားသင့်သွားပြီး ဘာပြောလဲဆိုတော့အဲဒါဆို အဲဒီ ကုရ်အာန်ကိုငါ့ကို ပြကြည့်ပါဦး။ အဲ့ဒီအထဲမှာ ဘာရှိလဲဆိုတာငါလည်း ကြည့်ချင်တယ်တဲ့၊ အဲဒါနဲ့သူ့ညီမက ဘာပြောလဲဆိုတော့ အစ်ကိုကြီးလို သန့်ရှင်းမှုမရှိတဲ့သူဟာ ဒီကုရ်အာန်ကို ကိုင်လို့မရဘူး။

ဟဇရသ်အုမရ်ﷺ ဒီစကား ကြားပြီးတော်တော်တွေဝေသွားတယ်။ အဲဒါနဲ့ဟဇရသ်အုမရ်ﷺက အရင်ရေချိုးလိုက်တယ်။ ပြီးမှ အဲဒီကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်လိုက်တာနဲ့ပဲ အတွင်းပိုင်းတစ်ခုလုံး လုံးဝပြောင်းလဲသွားတယ်။ ပြီးတော့အဲဒီအခြေအနေမှာဘဲ သူဟာ တမန်တော်မြတ် ﷺ ကိုရှာဖို့ဆိုပြီး ပြန်ထွက်သွားလိုက်တယ်။ ဒါပေမယ့် နီယသ်ပြောင်းသွားပြီ အရင်တမန်တော်ကို ﷺ ရှာဖို့ဆိုပြီး အိမ်ကနေထွက်လာတုန်းက နီယသ်တစ်ခုနဲ့၊အခု နောက်နီယသ်တစ်ခုဖြစ်သွားပြီး အဲဒါနဲ့တမန်တော်ကို ဘယ်မှာတွေ့နိုင်မလဲဆိုပြီး လိုက်မေးရင်းမေးရင်းနဲ့ တမန်တော်မြတ် ﷺ ဒါရေအရ်ကမ်မှာရှိနေတယ်ဆိုတာသိလိုက်ရတယ်။ အဲဒါနဲ့ဟဇရသ်

အုမရ်ﷺလည်း ဒါရေအရ်ကမ်မပ်ကာသဖ်ကို ရောက်သွားတယ်။ အဲဒီမှာလည်း မပ်ကာသဖ်ဖြစ်နေတယ်။ ပြီးတော့ဒီမပ်ကာသဖ် ကနေဘဲ ဒွန္နယာတစ်ခုလုံးရဲ့အခြေအနေတွေကို ပြောင်းလဲပေးနေတယ်။ အဲဒါနဲ့ဟဇရသ်အုမရ် ﷺ ဒါရေအရ်ကမ်အနားကိုရောက်တော့ အဲဒီမှာလုံခြုံရေးချထားတယ်။

အဲဒီအချိန်အခါတုန်းက သာသနာရေးရာ လုပ်ငန်းတွေကို လူသိရှင်ကြားလုပ်လို့မရသေးဘူး။ ဒီဋ္ဌတွေ အရမ်းဖိနှိပ်ညှင်းပန်းနေတဲ့ကာလဖြစ်တယ်။ အဲဒီနေ့က တမန်တော်မြတ် ﷺ ရဲ့ဦးရီးတော် ဟဇရသ်ဟမ်ဇာဟ် ﷺ ကင်းစောင့်ဖို့တာဝန်ကျတဲ့နေ့ ဖြစ်နေတယ်။ ဟဇရသ်ဟမ်ဇာဟ်ﷺက ဟဇရသ်အုမရ်ﷺလာတာတွေ့တော့ ချက်ချင်းတမန်တော်မြတ်ﷺဆီကို သတင်းပို့တယ်။ တမန်တော်မြတ် ﷺ ကလည်းလာပါစေဆိုပြီးအခွင့်ပေးလိုက်တယ်။ အဲဒါနဲ့ ဟဇရသ် ဟမ်ဇာဟ်ﷺက ဘာပြောသလဲဆိုတော့ အို-ကိုယ်တော်၊ အကယ်၍ သူနီယသ်ကောင်း ကောင်းနဲ့လာတယ်ဆိုလို့ရှိရင် ကျွန်တော်တို့သူ့ကို ကြိုဆိုကြမယ်။ အကယ်၍ အလ္လာဟ်မလုပ်ပါစေနဲ့။ မကောင်းတဲ့နီယသ်နဲ့လာမယ် ဆိုရင်တော့ ကျွန်တော်ကိုယ်တိုင်ကျွန်တော်ကိုင်တဲ့ဓါးနဲ့ပဲ ခေါင်းဖြတ်ပစ်မယ်။ အဲဒါနဲ့ဟဇရသ်အုမရ် ﷺ က အထဲကိုဝင်ဖို့ အတွက်အခွင့်ရသွားတယ်။ ဝင်လာပြီးတာနဲ့ချက်ချင်းပဲ ကိုယ့်ကိုယ်ကို တမန်တော်မြတ် ﷺလက်ဝယ်အပ် နှင်းလို့ ကလေမဟ်ဖတ်ပြီး အီမာန်လက်ခံလိုက်တယ်။

ဒီကိစ္စတွေအားလုံးဟာ ဟရမ်ဗလီဝတ်ကျောင်းတော်ထဲမှာ ဖြစ်နေတာမဟုတ်ပါ။ ဘယ်မှာဖြစ်နေတာလဲ။ မပ်ကာသဖ်မှာဖြစ်နေတာ။ ပြီးတော့ မပ်ကာသဖ်ကလည်း လူမသိ၊သူမသိအောင် လုပ်နေရတဲ့မပ်ကာသဖ်၊ အဲဒီမှာ ဟဇရသ်အုမရ် ﷺ သခင်အီမာန် လက်ခံလိုက်တာနဲ့ အစ္စလာမ်ရဲ့ ပထမဦးဆုံး "နာရာရေသပ်ကာဗီးရ်"ကို စတင်ကြွေးကြော်ခဲ့ကြတယ်။ နမားဇ်အချိန်ရောက်လာတော့ တမန်တော်မြတ် ﷺ က နမားဇ်ဖတ်ဖို့အာ

ကွက် အစီအစဉ်လုပ်နိုင်းတယ်။ ဟဇရသ် အုမရ်ﷺက ဘာမေးလဲဆိုတော့ အို-ကိုယ်တော်၊ နမားဇ် ဘယ်မှာဖတ်ကြမှာလဲ၊ တမန်တော်မြတ် ﷺက ဒီမှာဘဲဖတ်မှာပေါ့ဆိုပြီး အမိန့်ရှိတယ်။

ဟဇရသ်အုမရ်ﷺက မဟုတ်ဘူးကိုယ်တော်၊ အုမရ် အစ္စလာမ် လက်ခံလိုက်ပြီးတဲ့နောက်မှာ ဒီလိုလူတွေအမြင်ကနေဖုံးကွယ်ပြီး အေဗါဒသ်လုပ်နေတာ မရှိစေရတော့ဘူး။ ဒီနေ့ကစပြီး ဒီအေဗါဒသ်ကို လူမြင်ကွင်းမှာလုပ်တော့မယ်၊ ကအ်ဗါဟ်ဝတ်ကျောင်းတော်မှာလုပ်တော့မယ် ဆိုပြီး တမန်တော်မြတ်ﷺနှင့်အတူ အခြားဆွဟာဗါတွေအားလုံးကိုခေါ်ပြီး ကအ်ဗါဟ်ကျောင်းတော်ကို ချီတက်သွားတယ်။ နမားဇ်ကိုလူမြင်ကွင်းမှာ စတင်ဝတ်ပြုခဲ့ကြတယ်။ ပြီးတော့အဲဒီမပ်က်ကသဗ်မှာ အီမာန်လက်ခံ ခဲ့တဲ့ပုဂ္ဂိုလ်ကဘဲ ဟရာမ်ဝတ်ကျောင်း တော်မှာ ဘာကြေညာချက် ထုတ်သလဲ ဆိုတော့ အကယ်၍ မိမိတို့ရဲ့ကလေးတွေကို ဖတဆိုးဘဝနဲ့ တွေ့ချင်တဲ့သူ၊ ဒါမှမဟုတ် မိမိတို့ရဲ့ဇနီးတွေကို မုဆိုးမဘဝနဲ့တွေ့ချင်တဲ့သူရှိတယ်ဆိုရင် ငါတို့နမားဇ်ဝတ်ပြုနေ တာကိုလာတားကြည့်၊ဒီနေ့ကစပြီး ငါတို့ရဲ့ဒီအေဗါဒသ်ကို အလ္လာဟ် အိမ်တော်မှာဘဲ လုပ်ကြမယ်။ အဲဒါကိုတားရဲတဲ့ ကောင်ရှိရင် တားကြည့်၊ ငါနဲ့တွေ့သွားမယ်ဆိုပြီး လူအားလုံး သိအောင်ကြေညာ ပေးလိုက်တယ်။

မိတ်ဆွေများခင်ဗျား . . . ဒါဟာမပ်က်ကသဗ်မှာဖြစ်နေတဲ့ကိစ္စတွေပါ။ မပ်က်ကသဗ်ရဲ့လုပ်ငန်းစဉ်တွေဟာ ကျစ်လစ်သိပ်သည်းပြီး နိုင်မာမှုရှိလှပါတယ်။ တမန်တော်မြတ်ﷺ ကိုယ်တော်တိုင် သာသနာတော် ကိုပို့ချဖို့အတွက် အရင်ဆုံးမပ်က်သဗ်ကို ထူထောင်ခဲ့တယ်။ အဲဒီမှာကုရ်အာန် သင်ပေးရုံသက်သက် မဟုတ်ဘဲ စာရိတ္တတွေ၊အအ်မာလ်တွေကိုပါ ပြုပြင်လမ်းညွှန် ပေးခဲ့တယ်။ အဲဒီခေတ်အဲဒီ အခါကအီမာန်ယူမယ့် လူအားလုံးဟာ အဲဒီမပ်က်ကသဗ်ကိုလာရတယ်။ အဲဒီမှာဘဲ သူတို့ရဲ့သာသနာ ရေးရာ သွန်သင်ဆုံးမမှုတွေ သင်ယူခဲ့ကြတယ်။ ပြီးတော့တဖြည်းဖြည်းချင်း

ကာဖိရ်တွေဘက်ကနေ ဖိနှိပ်မှု တွေများလာပြီး မက္ကာဟ်မှာ ဘာသာရေး လွတ်လပ်မှု ဆိတ်သုဉ်းသလောက်ဖြစ်သွားတဲ့အချိန်ရောက်မှ တမန်တော်မြတ်ﷺဟာ အလ္လာဟ်အရှင်မြတ်ရဲ့အမိန့်တော်နဲ့ မဒီနာဟ်ရွှေမြို့တော်ကိုဟစ်ဂျ်ရသ်လုပ်ခဲ့တယ်။ မဒီနာဟ်ကို ရောက်ရောက်ချင်းပဲ မပ်စ်ဂျိဒေနဗဝီ ဝတ်ကျောင်းတော်သေးသေးလေးကို စတင်တည်ဆောက်ခဲ့တယ်။ အဲဒီဗလီမှာဘဲ အစ္စလာမ်သာသနာတော်ရဲ့ ဒုတိယမပ်က်သဗ်တစ်ခုဖြစ်တဲ့ စွပ်ဖဟ်ကျောင်းတော်ကို စတင်ဖွင့်လှစ်ခဲ့တယ်။ မစ်ဂျိဒေနဗဝီကို ရောက်ဖူးသူတိုင်းသိကြလိမ့်မယ်။ အဲဒီမှာဒီနေ့အထိ အဲဒီစွပ်ဖဟ် ကျောင်းတော်ရဲ့နေရာကို ထိန်းသိမ်းထားကြတုန်းဘဲ။ အဲဒီကျောင်းတော်မှာလည်း တမန်တော်မြတ်ﷺ ကိုယ်တော်တိုင်ဆရာအဖြစ်နဲ့ ဆွဟာဗါသခင်ကြီးတွေကို သာသနာ့ရေးရာတွေသင်ကြားပို့ချပေးခဲ့တယ်။

မိတ်ဆွေများခင်ဗျား . . . . ဒီနေရာမှာ တစ်ခုသတိထားကြည့်ပါ။ ဒီလုပ်ငန်းကြီးတစ်ခုလုံး အောင်မြင်အောင် ကြိုးစားမှုတွေပြုထားတဲ့ပုဂ္ဂိုလ်ဟာဘယ်သူလဲ၊ မပ်က်သဗ်ကျောင်း ကဆရာဖြစ်တဲ့ တမန်တော်မြတ်ﷺကိုယ်တော်တိုင်ဘဲ။ အဲဒီဆရာဆီမှာ ပညာရည်သောက်သုံးခွင့်ရတဲ့သူတွေကရော ဘယ်သူတွေ ဖြစ်လာသလဲ။ ဆွဟာဗဟ်သခင်ကြီးတွေ၊ အဲဒီဆွဟာဗဟ်ကြီးတွေ ပညာတွေတတ်မြောက် ထားလို့ ကျွန်တော်တို့အမှုသ်ကို လမ်းပြနိုင်ခဲ့တာမဟုတ်ဘူးလား။ အဓိကအရင်းခံကျတဲ့ကိစ္စက ဒီနေရာမှာ တပည့်တွေကဆရာကို ယုံကြည်အားကိုးချင်တဲ့ စိတ်၊ ဆရာကိုချစ်တဲ့စိတ်၊ အဲဒီစိတ်တွေက သူတို့ရဲ့အရည်အချင်းတွေကို ပိုပြီးတောက်ပြောင်လာစေတယ်။ တပည့်ဆွဟာဗဟ်တွေက ဆရာဖြစ်တဲ့တမန်တော်ﷺကိုဘယ်လောက် ချစ်လဲဆိုရင် တမန်တော်ထွေးလိုက်တဲ့ တံတွေးကိုတောင်မှ မြေပေါ်အကျမခံ ဘူး။ တမန်တော်ဝုဇူလုပ်ပြီး ကျလာတဲ့ရေကို မြေပေါ်အကျမခံဘူး။ အောက်ကနေလက်နဲ့ခံပြီးတော့ ကိုယ့်ရဲ့ခန္ဓာကိုယ်မှာသုတ်လိမ်းကြ တယ်။ အဲဒီလောက်အထိ တမန်တော်ﷺကို

ချစ်ကြတာ၊ အဲဒီလိုကျစ်လစ်ခိုင်မာမှုရှိတဲ့ သံယောဇဉ်မျိုး ကျွန်တော်တို့အတွေး အာရုံထဲမှာတောင် ရှိနိုင်မှာမဟုတ်ဘူး။ ဒါပေမယ့်ဆွဟာဗဟ်တွေက အဲဒါကိုလက်တွေ့ လုပ်ပြခဲ့တယ်။ အဲဒီလိုတပည့်မျိုးတွေ တမန်တော်မြတ်ﷺမွေးထုတ်ပေးခဲ့တယ်။ ဟဒီးစ်တော်တစ်ရပ်မှာလာရှိတယ်။ တမန်တော်မြတ်ﷺဟာ ဆွဟာဗဟ်တွေကိုစာသင်ပေးတဲ့အချိန်မှာ တစ်ခါတစ်လေ၊ နှစ်ခါသုံးခါလောက် ကျော့ကျော့ပြီး သင်ပေးလေ့ရှိတယ်။ ဘာဖြစ်လို့လဲဆို တော့စာသင်ယူနေတဲ့တပည့်အားလုံးဟာ ဉာဏ်ရည် တစ်မျိုးတည်းမှ မဟုတ်တာ၊အဲဒါကြောင့် ကျောင်းသားတိုင်းဆရာ့စကားကို သဘောပေါက်နား လည်ဖို့အတွက် နှစ်ခါ၊သုံးခါကျော့ကျော့ပြီးသင်ကြားပေး ရခြင်းဖြစ်တယ်။ အဲဒီလိုဘဲဆွဟာဗဟ်တွေထဲမှာ အလ္လာဟ် အရှင်မြတ်ရဲ့အမိန့်တော်တွေ၊ တမန်တော်မြတ်ရဲ့လမ်းစဉ်တွေကို အသည်းစွဲနေအောင်ဆုပ် ကိုင်ထားဖို့အ တွက် နည်းလမ်းပြပေးခဲ့တာ ပမာတောင်ပြစရာမရှိပါဘူး။

ဆွဟာဗီတစ်ပါး ရောမဘုရင်ရဲ့နန်းရင်ပြင်ကိုရောက်တော့ ဘုရင့် ဘက်ကနေပြီး အဲဒီဆွဟာဗီကို ညွှေ့ခံတဲ့အနေနဲ့ ထမင်းအတူစားဖို့ဖိတ် ခေါ်ခဲ့တယ်။ ဘုရင်နဲ့အတူထမင်းထိုင်စားနေရင်းနဲ့ အဲဒီဆွဟာဗီရဲ့ စားနေတဲ့ အစာတစ်ခု ကြမ်းပြင်ပေါ်ကိုပြုတ်ကျသွားတယ်။ အဲဒါကို ဆွဟာဗီကကောက် ယူပြီးစားလိုက်တယ်။ အဲဒီဆွဟာဗီဘေးမှာ ထိုင်နေတဲ့လူတစ် ယောက်ကဘာပြောသလဲဆိုတော့ ခင်ဗျားလုပ်လိုက်တဲ့ကိစ္စဟာ ဒီကယဉ် ကျေးမှုနဲ့ဆန့်ကျင်နေတယ်။ ဒီလိုမျိုးအောက်ကျသွား တဲ့စားစရာတစ်ခုခုကို ကောက်ပြီးပြန်စားတာ ဒီကလူတွေမကြိုက်ဘူး။ အဲဒါနဲ့ဆွဟာဗီက ချက်ချင်းဘဲဘာအဖြေပြန်ပေးလဲဆိုတော့ ငါကဒီလူပြိန်းတွေ အကြိုက်လိုက်ပြီး ငါ့ချစ်သူတမန်တော်ရဲ့စွန္နသ်တော် တစ်ခုကိုလက်လွှတ် လိုက်ရမှာလား။ အဲဒီတော့ မိတ်ဆွေများခင်ဗျား ဒီလိုချစ်နိုင်တဲ့အချစ်မျိုးဟာ သူတို့ရဲ့နှလုံးသားထဲကို ရိုက်သွင်းခြင်းခံခဲ့ရလို့ဘဲ။

အဲဒီလိုပဲ ဟဇရသ်အွတ်စ်မားန်ﷺရဲ့ အဖြစ်အပျက်ကလည်း

မှတ်သားစရာကောင်းပါတယ်။ တမန်တော်မြတ်ﷺက ဟဇရသ်အွတ်စ်မားန်ﷺကို မက္ကာဟ်မြို့မှာရှိတဲ့ မွတ်စ်လင်တွေဆီ သံတမန်အဖြစ်နဲ့စေလွှတ်လိုက်တယ်။ ဟဇရသ် အွတ်စ်မားန်ﷺက အဲဒီကိုသွားပြီး မိမိနဲ့နဂိုရင်းနှီးမှုရှိတဲ့ ကာဖိရ်ခေါင်းဆောင် တစ်ယောက်အိမ်မှာ သွားတည်းတယ်။ အဲဒီမှာ ညအိပ်ပြီးမနက်မိုးလင်းတော့ မက္ကာဟ်က ခေါင်းဆောင်တွေနဲ့တွေ့ဆုံဖို့စဉ်နေတုန်းမှာ ဟဇရသ်အွတ်စ်မာန်ﷺရဲ့လုံချည်ဟာ ခြေသလုံး တစ်ဝက်အထိဝတ်ထားတယ်။ အဲဒါကိုအိမ်ရှင်ကာဖိရ် ကတွေ့တော့ အွတ်စ်မာန်းခင်ဗျား မက္ကာဟ်ကခေါင်းဆောင်ကြီး တွေနဲ့တွေ့ဆုံ ဆွေးနွေး ဖို့သွားနေတာနော်၊ ပြီးတော့အဲဒီလူတွေဟာ လုံချည်ဒီလောက် အမြင့်ကြီးဝတ်ထားတာကိုမကြိုက်ဘူး။ခင်ဗျား လုံချည် နည်းနည်းလောက်ချ ဝတ်ဆိုပြီးပြောတယ်၊ ဟဇရသ် အွတ်စ်မာန်းﷺကလည်း အဲဒီအချိန်မှာတို ဆွဟာဗီအဖြေပေးသလိုဘဲ။ငါဒီကာဖိရ်မွတ်ရှရစ်ကခေါင်းဆောင်တွေကြောင့် ငါ့ရဲ့အချစ်တော် တမန်တော်မြတ်ရဲ့ စွန္နသ်ကိုစွန့်လွှတ်ရမှာလား။ လို့ဆိုပြီးပြန်ပြောလိုက်တယ်။

မိတ်ဆွေများခင်ဗျား . . ခင်ဗျားတို့ဟာဆရာသမားတွေဖြစ်တယ်။ ကျွန်တော်ဒီမုဇာကရာဟ်အစီအစဉ်မှာ ခင်ဗျားတို့ကို အကြိမ်ကြိမ်တင်ပြခဲ့ပြီးဖြစ်တယ်။ ခင်ဗျားတို့ဟာတကယ့်ကို အဓိကကျတဲ့အခန်းကဏ္ဍမှာ တာဝန်ယူထားကြသူတွေဖြစ်တယ်။ အလိဖ်၊ဘာ၊သာ၊ဆာ ဖတ်တတ်အောင်သင်ပေးရမယ်။ ကုရ်အာန်ကို မခ်ရဂျ်တွေ၊ စွေဖါးသ်တွေနဲ့တကွ ဌာန်ကရိုဏ်းကျကျ ဖတ်တတ်အောင်သင်ပေးရမှာ ခင်ဗျားတို့ရဲ့တာဝန်ဖြစ်သလို အဲဒါတွေနဲ့အတူတူ အဲဒါထက်ပိုပြီးအရေး ကြီးတဲ့တာဝန်တစ်ခုက ခင်ဗျားတို့ကလေးတွေကို တမန်တော်မြတ်ﷺရဲ့ ယဉ်ကျေးမှုတွေလည်း သင်ပေးဖို့လိုတယ်။ ပြီးတော့ကလေးတွေကို အစ္စလာမ့်ယဉ်ကျေးမှုတွေသင်ပေးရင်းနဲ့ကိုယ့်ကိုယ်ကိုလည်း သတိထားပါ။ ဒီကလေးတွေကိုသင်ပေးနေတဲ့အတိုင်းငါကောအဲဒီအပေါ်မှာ ကျင့်သုံးမှုရှိသလား၊

မရှိဘူးလားဆိုတာ ဂရုပြုပါ။ အလ္လာဟ်မလုပ်ပါစေနဲ့။ ကျွန်တော်တို့ကလေး တွေကို သင်ပေးနေတဲ့အတိုင်း ကိုယ်တိုင်လက်တွေ့ ကျင့်သုံးမှုမရှိဘူးဆိုရင် အဲဒီသင်ကြားမှုမှာ ဘာမှ ထိရောက်မှု ရှိမှာမဟုတ်ဘူး။ ကျွန်တော်တို့ကိုယ်တိုင် စွန္နသ်တော်တွေကို ဖဝါးခြေထပ်လိုက်နာကျင့်သုံးမှသာထိရောက်မှု ရှိမှာဖြစ်ပါတယ်။ ပြီးတော့ဒါလည်း တစ်ခုမှတ်ထားပါ။ အလ္လာဟ်အရှင်မိန့်တော်မူထားတာရှိတယ်။

قُلْ إِن كُنتُمْ تُحِبُّونَ اللَّهَ فَاتَّبِعُونِي يُحْبِبْكُمُ اللَّهُ وَيَغْفِرْ لَكُمْ ذُنُوبَكُمْ ۗ وَاللَّهُ غَفُورٌ رَّحِيمٌ ﴿٣١﴾

အလ္လာဟ်အချစ်ရဖို့အတွက်အရေးကြီးဆုံးအလုပ်က တမန်တော်မြတ်ရဲ့ ကျင့်စဉ်ကျင့်ရပ်တွေအတိုင်းဖဝါးခြေထပ် လိုက်နာဖို့အရေးကြီးတယ်။ အဲဒီနောက်လိုက်မှုဆိုတာ ကိစ္စတိုင်းမှာလုပ်ရမှာဖြစ်တယ်။ စားတဲ့အချိန် ဘဲဖြစ်ဖြစ်၊ သောက်တဲ့အချိန်ဘဲဖြစ် ဖြစ်၊အိပ်တဲ့အချိန်ဘဲဖြစ်ဖြစ် ဘယ်လိုအခြေအနေအချိန်အခါမျိုးဘဲဖြစ်ဖြစ် တမန်တော်မြတ်ရဲ့ နောက်လိုက်မှု ပြုရမှာဖြစ်တယ်။ အဲဒီလိုနောက်လိုက်မှုပြုခဲ့တဲ့သူတွေကိုလည်း ကြည့်လိုက်ပါဦး။အလ္လာဟ်အရှင်သူတို့ဘဝ သက်တမ်းကို ဘယ်လိုကုန်ဆုံးစေခဲ့သလဲ။ သူတို့စကားပြောတဲ့ နေရာမှာ၊သူတို့စာသင်တဲ့ နေရာမှာ၊ ပို့ချတဲ့ နေရာမှာ၊ သွားလာလှုပ် ရှားတဲ့နေရာမှာ ကိစ္စတိုင်း၊ ကိစ္စတိုင်းမှာ အလ္လာဟ်အရှင်မြတ်ဘက်တော်ကနေ အစရ် (စူးရှသက်ရောက်မှု) ဖြစ်အောင်လုပ်ပေးခဲ့တယ်။ အဲဒီတော့ ဒီစွန္နသ်တော်ကို ဖဝါးခြေထပ်လိုက်နာဖို့ကအရမ်းအရေးကြီးတဲ့ကိစ္စတစ်ခု ဖြစ်တယ်။ အဲဒါမပါဘဲ အလ္လာဟ့်အချစ်လည်းမရနိုင်သလို ခင်ဗျားတို့ရဲ့သင်ကြား ပို့ချမှု၊ ကြိုးစားအားထုတ်မှုတွေအားလုံးဟာလည်း အချီးအနှီးဘဲဖြစ်သွားလိမ့်မယ်။ ဘာမှ အရာထင်မှာမဟုတ်ဘူး။

ကျွန်တော်တို့ရဲ့အာကာဗိရ်ဆရာသခင်အကြီးအကဲတွေကတော့

လုံးဝအံ့မခန်းပုဂ္ဂိုလ်တွေဘဲ၊ ဟာဇရတ် ထာနဝီသခင်ရဲ့ခါန်ကာဟ်မှာ ပုဂ္ဂိုလ်တစ်ယောက်ဆယ်နှစ်တိတိနေခဲ့တယ်။ အဲဒီလိုနေလာရင်းနဲ့တစ်နေ့အဲဒီ ပုဂ္ဂိုလ်က ဆရာကြီးကိုဘာပြောသလဲဆိုတော့ ဆရာကြီး၊ ကျွန်တော်ဆရာကြီး ဆီမှာ (၁၀)နှစ်တောင်ရှိပြီး နေနေတာ၊ ဒါပေမယ့်အဲဒီ(၁၀)နှစ်အတွင်းမှာ ဆရာကြီးဆီကနေဘာ"ကရာမသ်"တစ်ခုမှ မတွေ့ခဲ့ရဘူး။ သူတော်စင်တွေ ဆိုတာ ကရာမသ်တော့ရှိရမှာပေါ့တဲ့။ အဲဒါနဲ့ဟာဇရတ်ထာနဝီသခင်က ဘာအဖြေပေးသလဲ ဆိုတော့ မင်းဒို့ကိုဒီ(၁၀)နှစ်တွင်းမှာ တစ်ခေါက်တစ်ခါ လောက် စွန္နသ်နဲ့ဆန့်ကျင်တဲ့ကိစ္စ တစ်ခုခုလုပ်ခဲ့တာတွေ့လား၊ မတွေ့ပါဘူး ဆရာကြီး အဲဒါဆို ဒီထက်ကြီးကျယ်တဲ့"ကရာမသ်" နောက်ထပ် ဘာရှိဦးမှာလဲ။ ဒီမှာ မင်းထင်နေတဲ့"ကရာမသ်"တွေမရှိဘူး။ စွန္နသ်တွေအပေါ် အကောင်အထည်ဖေါ်ခြင်းကိုက အကြီးဆုံး "ကရာမသ်"ပဲဆိုပြီး အဖြေပေးလိုက်တယ်။ အဲဒီလို တမန်တော်မြတ်ﷺရဲ့ စွန္နသ်တွေအပေါ် အခြေအနေတိုင်း အချိန်အခါတိုင်းမှာ လိုက်နာကျင့်သုံးခြင်း အားဖြင့် အဆက်အသွယ်တွေခိုင်မာလာလိမ့်မယ်။ ကျွန်တော်တို့ ဘယ်လောက်တမန်တော်မြတ်ﷺအပေါ် ဒရူးဒ်ပို့မလဲ။ ပို့သလောက် တမန်တော်မြတ်ﷺစီ ရောက်တယ်ဆိုတာက ကျွန်တော်တို့ရဲ့ ယုံကြည်ချက် ဖြစ်တယ်။ ပြီးတော့ တမန်တော်မြတ်ﷺဆီကို အဲဒီပို့လိုက်တဲ့ဒရူးဒ် တွေရောက်တယ်ဆိုတာလည်း ဘယ်သူ့ရဲ့သား ဘယ်သူကပို့လိုက်တာ ပါဆိုပြီး နာမည်နဲ့တကွရောက်တာ။

ခင်ဗျားတို့အားလုံးကျောင်းဆရာတွေဖြစ်ကြတယ်။ ခင်ဗျားတပည့် တစ်ယောက်ကခင်ဗျားကို တွေ့တိုင်း တစ်နေ့ကို အခါနှစ်ဆယ်၊သုံးဆယ် လောက်စလာမ်ပေးတယ်ဆိုရင် ခင်ဗျားဘယ်တပည့်ကိုသိမလဲ။ ဘယ်သူနဲ့ပိုရင်းနှီးမလဲ။ အဲဒီလိုပဲ ကျွန်တော်တို့တမန်တော်မြတ်ﷺဆီ ဒရူးဒ်ပို့လေ။ တမန်တော်မြတ်ﷺ နဲ့ပိုရင်းနှီးလေဘဲ။ အဆက်အသွယ် တွေပိုပြီးခိုင်မာ လာလိမ့်မယ်။ ပြီးတော့ အဲဒါကိုအကြောင်းခံပြီး

တော့ဘဲကျွန်တော်တို့ဟာ တမန်တော်မြတ်ﷺရဲ့ ဘရ်ကသ်တွေ၊ ဖိုင်ဇ်တွေ ရရှိပြီး အလ္လာဟ်အရှင်မြတ်ဘက်တော်ကနေလည်း ရဟ်မသ်တွေ၊ နေ့အ်မသ်တွေ အပြည့်အဝချီးမြှင့်ခြင်း ခံကြရမှာဖြစ်တယ်။

ဆရာသမားများခင်ဗျား . . . ခင်ဗျားတို့တွေဟာ ကျောင်းဆရာတွေဖြစ်တဲ့အတွက်ကြောင့် တစ်ခုသတိထားရမှာက ခင်ဗျားတို့ရဲ့အနေအထိုင်တည်တံ့ဖို့လိုတယ်။ ခင်ဗျားတို့အနေအထိုင်မတတ်ဘူး ဆိုရင် ခင်ဗျားတို့ရဲ့ မပ်က်သဗ်လုပ်ငန်းစဉ်တွေကို ထိန်းချုပ်နိုင်မှာမဟုတ်ဘူး။ အဲဒါတစ်ခု အမြဲတမ်းမှတ်ထားပါ။ ဒီကျောင်းသားတွေ ကလေးတွေဟာ ခင်ဗျားတို့ရဲ့ဂုဏ်အရှိန်အဝါတွေ အနေအထိုင်တွေကိုကြည့်ပြီး ချစ်၊ ကြောက်၊ ရိုသေကြမယ်။ အိန္ဒိယနိုင်ငံကအာလင်မ်ကြီးတစ်ပါးဖြစ်တဲ့ ဟဇရသ်မော်လာနာ အိုဗိုက်ဒွလ္လာ (ဗလ်ယာဝီး)သခင်က ပါကစ္စတန်လာတော့ကျွန်တော်တို့ကျောင်း ဂျာမိအတ်ဖါရူကီယဟ်မှာ ဗယာန်အစီအစဉ်တစ်ခုလုပ်ခဲ့တယ်။ အဲဒီမှာ သူကတော်တော်ကောင်းတဲ့ ဆုံးမစကားတစ်ခုပြောတယ်။ ဘာပြောလဲဆိုတော့ အာလင်မ်သာသနာ့ပညာရှင်ဆိုတာ ကိုယ့်ကိုယ်ကို အာလင်မ်ဖြစ်ပါတယ်ဆိုပြီး လူတွေကို မိတ်ဆက်ပေးဖို့မလိုဘူး။ သူ့ရဲ့အနေအထိုင်၊ အသွားအလာ၊ အပြောအဆိုတွေကနေဘဲ လူတွေကဒီလူအာလင်မ်ဖြစ်တယ်ဆိုတာ သိသွားရမယ်။

အဲဒီတော့ မိတ်ဆွေတို့.....ခင်ဗျားတို့တွေကလည်း အာလင်မ်တွေဖြစ်ကြတယ်။ မပ်က်သဗ်တွေမှာ စာသင်ကြားနေကြတဲ့ တာဝန်ရှိပုဂ္ဂိုလ်တွေ၊ ဆရာတွေဖြစ်တယ်။ ခင်ဗျားတို့အနေအထိုင် တတ်ဖို့လိုတယ်။ တမန်တော်မြတ်ﷺဟာ ဒီကမ္ဘာမှာအနေအထိုင်အတတ်ဆုံး၊ ဂုဏ်အရှိန်အဝါအရှိဆုံး ပုဂ္ဂိုလ်ဖြစ်တယ်။အဲဒီလို ဂုဏ်အရှိန်အဝါရှိတာတောင် ဆွဟာဗဟ်သခင်ကြီးတွေက ဘာထင်ကြသလဲဆိုတော့ ဆွဟာဗဟ်တိုင်း၊ ဆွဟာဗဟ်တိုင်းက တမန်တော်မြတ်ဟာ ငါ့ကိုအချစ်ဆုံးပဲလို့ထင်ကြတယ်။ ဒါပေမယ့် တမန်တော်မြတ် သူတို့တွေနဲ့အတူ ထိုင်ဝိုင်းတွေမှာရှိတဲ့အချိန်မှာ ဘယ်တော့မှ အသံကျယ်ကျယ်မရယ်ဖူးဘူး။ များသောအားဖြင့်

တမန်တော်မြတ်ﷺပြုံးဘဲပြုံးခဲ့တယ်။ ကျွန်တော်တို့တစ်ခါတစ်လေ အတန်းထဲမှာ စာသင်နေတဲ့အချိန် မိတ်ဆွေတစ်ယောက်ယောက် ရောက်လာခဲ့ရင် သူနဲ့စကားပြောရင်းနဲ့ ကျောင်းသားတွေ၊ တပည့်တွေ အရှေ့မှာဘဲ ကျွန်တော်တို့အော်အော်ပြီးရယ်မောတတ်ကြတယ်။ အဲဒါ ကျောင်းသားတွေ အရှေ့မှာ ကိုယ့်သိက္ခာကိုယ်ချတာနဲ့အတူတူဘဲ။ ဆရာတို့အနေနဲ့ သိက္ခာရှိရှိ တည်တည်တံ့တံ့နေရမှာဖြစ်တယ်။

ဟဒီးစ်တော်တွေမှာ တမန်တော်မြတ်ﷺနဲ့ ပတ်သက်ပြီးလာရှိထား တာတွေရှိတယ်။ တမန်တော်မြတ်ﷺဟာ အမြဲတမ်းတွေးပူနေလေ့ရှိတယ်။ ဘယ်တော့မှအလ္လာပ၊ သလ္လာပစကားတွေအပြုအမူ မျိုးတွေနဲ့နေလေ့မရှိဘူး။ အမြဲတမ်းအွမ္မသ်အရေးတွေးပူလျက်နေတယ်။

မိတ်ဆွေများခင်ဗျား . . .ခင်ဗျားတို့တွေဟာလည်း တမန်တော်မြတ်ﷺရဲ့ အွမ္မသ်သားတွေဖြစ်ကြသလို တမန်တော်မြတ်ﷺရဲ့ တာဝန်တွေဆက်ခံထားကြတဲ့ ပုဂ္ဂိုလ်တွေဖြစ်ပါတယ်။ ဒီအွမ္မသ်ကခင်ဗျား တို့ကိုအများကြီး မျှော်လင့်ထားကြတယ်။ အကယ်၍သာ ခင်ဗျားတို့ရဲ့အနေ အထိုင်ဆင်ခြင်မှုမရှိဘူးဆိုရင် ခင်ဗျားတို့သတင်းလည်း မွေးမှာမဟုတ်ဘူး။ စာသင်ခန်းထဲမှာ တည်တည်တံ့တံ့မနေတတ်ဘူးဆိုရင် ကလေးတွေဟာခင် ဗျားတို့ဆီကနေ အကျိုးရသင့်သလောက် ရကြမှာမဟုတ်ဘူး။ အမြဲတမ်းအ တန်းထဲဝင်တိုင်း ဝိုဇူနဲ့တက္ကဝင်နိုင်အောင် အကျင့်လုပ်ပါ။ ဒီဝိုဇူဆိုတာ မုအ်မင်န်ရဲ့လက်နက်ဘဲ၊ အဲဒီကိစ္စကို ကျွန်တော်တို့ သိပ်အလေးမထား တတ်ကြဘူး။

တစ်နေ့ဟဇရသ်အဗူဟုရိုင်ရဟ် ﷺ ဝုဇူလုပ်နေတဲ့အချိန်မှာ လက်တွေကို တံတောင်ဆစ်အထိ ဆေးကြောရမယ့်အစား ပုခုံးအထိ ဆေးကြောလိုက်တယ်။ ပြီးတော့ခြေထောက် ဆေးပြန်တော့လည်း ခြေမျက်စိအထိဆေးရမယ့်အစား ခြေသလုံးတစ်ဝက်ကျော်အထိ ဆေးကြော

လိုက်တယ်။ သခင်ကြီးရဲ့တပည့်တွေက အဲသလိုတွေလုပ်နေတာ တွေ့တော့ ဘာဖြစ်လို့ အဲဒီလိုဆေးကြောရတာလဲဆိုပြီး သခင်ကြီးကို မေးကြတယ်။ အဲဒါနဲ့ ဟာဇရသ်အဗူဟုရိုင်ရဟ် ﷺ ကဘာအဖြေပေးသလဲဆိုတော့ 'ငါ့အနေနဲ့ ငါ့ရဲ့အချစ်တော် တမန်တော်မြတ် ﷺ ရဲ့မိန့်ခွန်း စကားတစ်ခွန်းကြားထားဖူးတယ်။ အဲဒါဘာလဲဆိုတော့ တမန်တော်မြတ် ﷺ အမိန့်ရှိထားတယ်။ ကိယာမသ်နေ့ကျလို့ရှိရင် ငါကိုယ်တော်က ငါ့ရဲ့အုမ္မသ်ကို သူတို့ဝုဇူလုပ်ခဲ့တဲ့အစိတ်အပိုင်းတွေရဲ့ လက္ခဏာတွေကို အခြေခံပြီး မှတ်မိလိမ့်မယ်တဲ့။ ဝုဇူမှာဆေးကြောရတဲ့အစိတ်အပိုင်းတွေဟာ ကိယာမသ်နေ့ကျရင် လင်းဝင်းတောက်ပ နေလိမ့်မယ်တဲ့။ အဲဒါကြောင့် ငါလည်းကိယာမသ်နေ့ကျလို့ရှိရင် ငါ့ရဲ့လက်တွေတံတောင်ဆစ်အထိ လင်းဝင်းတောက်ပမယ့်အစား ပခုံးအထိလင်းဝင်းတာကိုလိုချင်တယ်။ ငါ့ရဲ့ခြေထောက်တွေ ခြေမျက်စိအထိတောက်ပမယ့်အစားခြေသလုံးတစ်ဝက်အထိတောက်ပနေတာကို လိုချင်တဲ့အတွက်ကြောင့် အခုလိုအပိုလုပ်ပြီး ဆေးကြောရတာဖြစ်တယ် 'လို့ အမိန့်ရှိတယ်။ ဒီကိစ္စကတော့ ဟဒီးစ်မှာပါတဲ့ အတွက်ကြောင့် ကိယာမသ်နေ့ကျရင် ကျွန်တော်တို့ရဲ့မျက်နှာတွေ၊ လက်တွေ၊ ခြေထောက်တွေ လင်းဝင်းတောက်ပနေမယ်ဆိုတဲ့ကိစ္စမှာ ဘာမှသံသယဖြစ်စရာမရှိဘူး။ အဲဒါတင်မကသေးဘူး။ ကျွန်တော်တို့ရဲ့အကာဗိရ် ဆရာသခင်အကြီးအကဲတွေ အမိန့်ရှိတယ်။ အဲဒီလိုသေသေချာချာဝုဇူလုပ်တဲ့ သူဟာ ဒီဒွန်ယာမှာလည်း သူ့ရဲ့ခန္ဓာကိုယ်အစိတ်အပိုင်း လင်းဝင်းနေပါလိမ့်မယ်တဲ့။

ကရာချိမှာ ကျွန်တော့်ရဲ့မိတ်ဆွေတစ်ယောက်ရဲ့သား နိကာဟ်မှာ ကျွန်တော့်ကိုဖိတ်တော့ ကျွန်တော်သွားခဲ့တယ်။ ဗလီမှာ အဆွရ်အပြီးမှာ နိကာဟ်လုပ်မှာဖြစ်တယ်။ ကျွန်တော်တို့က နမားဇ်မတိုင်မီ သူ့အိမ်ကိုရောက်သွားတယ်။ အဲဒီကနေပြီး သတို့သားနဲ့အတူဗလီကိုသွားမယ်ဆိုပြီး

အစီအစဉ်လုပ်လိုက်တယ်။ အဲဒီသတို့သားအနားမှာ သူ့မိတ်ဆွေအပေါင်းအသင်းတော်တော်များများ လည်းရှိနေတယ်။ သူ့မိတ်ဆွေ တစ်ယောက်က သူ့ကိုခဏခဏဘာသတိပေးနေလဲဆိုတော့ "သူငယ်ချင်း . . . အဇာန်ဆိုတော့မယ်။အခုထိအဆင့်သင့်မလုပ်ရသေးဘူးလား။ မြန်မြန်လုပ် တော့လေကွာတဲ့" အဲဒါနဲ့သတို့သားက ဘာပြောလဲဆိုတော့ "ငါအဆင်သင့်ဖြစ်နေပြီပဲ၊ ဘာလုပ်ဖို့ကျန်သေးလို့လဲတဲ့။" ခဏကြာတော့ သူ့ရဲ့အခြားမိတ်ဆွေတွေက လည်း သူ့ကိုအဆင်သင့်လုပ်ဖို့ဝိုင်းပြောကြတော့ အဲဒါလည်း သူဒီအဖြေပဲပေးတယ်။ ဟိုမိတ်ဆွေတွေက သူ့ကိုအင်္ကျီ အဝတ်အစား အသစ်လဲပြီး အမွှေးအကြိုင် တွေဘာတွေလိမ်းဖို့အတွက် ပြောနေကြတာဖြစ်တယ်။ တတိယတစ်ခေါက် သူ့ကိုသူ့မိတ်ဆွေတွေက ထပ်ပြောတဲ့အခါ အဲဒီလူငယ်လေးကဘာပြောလဲဆိုတော့ "သူငယ်ချင်းတို့ . . . ငါတစ်နေ့ကိုငါးကြိမ်ပုံမှန်ဝုဇူလုပ်နေတဲ့လူတစ်ယောက်ဖြစ်တယ်။ ပြီးတော့ ငါဝုဇူလုပ်ထားရင်ငါ့မျက်နှာဘယ်လောက်အထိဖြူစင်ဝင်းပနေသလဲဆိုရင် ခရင်မ်တွေ၊ ပေါင်ဒါတွေလိမ်းထားရင်တောင် အဲဒီလောက် မဖြူဘူးလို့ ငါခံစားရတယ်တဲ့။" ဝုဇူလုပ်ခြင်းအားဖြင့်ရရှိလာမယ့်နူရ်ကို ခရင်မ်တွေ၊ ပေါင်ဒါတွေနဲ့လုပ်ယူလို့မရဘူး။

ဆရာသမားများခင်ဗျား . . . ကျွန်တော်တို့လည်း ဒီဝုဇူကိုလုပ်ပြီးအကောင်းဆုံးကတော့ နဖိလ်နှစ်ရကအသ်ပါဖတ်ပြီး အလ္လာဟ်ဆီကနေဒုအာလုပ်၊အကူအညီတွေတောင်းခံပြီးမှ အတန်းထဲဝင်ပြီး စာသင်ကြည့်ပါ။ အလ္လာဟ်အရှင်မြတ်ရဲ့အကူအညီတွေ ဘယ်လောက်ရမလဲဆိုတာကို ခင်ဗျားတို့ ကိုယ်တိုင်ခံစားရလိမ့်မယ်။ ဖါရစီမှာ စာဆိုလေးတစ်ခုရှိတယ်။ ကြောင်ကိုမင်္ဂလာဦးညမှာပဲရိုက်တဲ့။ (မြန်မာစကားပုံ မယားနေစကြောင်သေမှဆိုတာမျိုးလိုပေါ့။) အဲဒီစာဆိုဘယ်လိုဖြစ်လာလဲဆိုတော့ လူတစ်ယောက်ဆီမှာ သမီးနှစ်ယောက်ရှိတယ်။ နှစ်ယောက်စလုံးကိုအရမ်းချစ်လို့ ရွှေပေါ်မြတင်ပြီးမွေးထားတယ်။ ဒါပေမယ့်မိန်းကလေးဆိုတာကတော့

သူတစ်နေ့ယောက္ခမအိမ်ကိုသွားရမှာပဲလေ။ အဲဒီတော့ သူ့သမီးတွေကို အိမ်ထောင်ချပေးရမယ့် အရွယ်ရောက်လာတော့ အဲဒီပုဂ္ဂိုလ်တော်တော် တွေဝေပြီး စိတ်မကောင်းဖြစ်သွားတယ်။ သူ့သမီးတွေနဲ့ ခွဲပြီးနေရတော့မယ်။ သူ့သမီးတွေဟာ အိမ်မှာနေတုန်းက ဘာမှအလုပ်လုပ်ခဲ့ရတာမဟုတ်ဘူး။ အခုအိမ်ထောင်ပြုရင် ပင်ပင်ပန်းပန်း အလုပ်တွေလုပ်ရတော့မယ်ဆိုပြီး တွေးပူသွားတယ်။ သူကသူ့သမီးတွေကို သက်သက်သာသာနေတာ ကိုပဲမြင်ခြင်တယ်။ အဲဒါနဲ့သူက အိမ်အပြင်မှာ ကြော်ငြာတစ်ခု ကပ်လိုက် တယ်။ အဲဒီမှာဘာရေးထားလဲဆိုတော့ "ကျွန်တော့်မှာ သမီးနှစ်ယောက်ရှိတယ်။ အခုသူတို့ကို အိမ်ထောင်ချပေးရမယ့် အရွယ် ရောက်နေပြီ။ အဲဒီတော့နိကာဟ် လုပ်ချင်တဲ့သူတွေရှိရင် လာရောက်လျှောက် ထားနိုင်တယ်တဲ့။ ဒါပေမယ့်တစ်ခုရှိတာက သူတို့နဲ့ အိမ်ထောင်ပြုချင်တဲ့လူက သူတို့ကိုဘာအလုပ်မှမခိုင်းပါဘူးဆိုပြီး ကတိပေးမှထည့်ပေးမယ် "ဆိုပြီး ရေးထားတယ်။ တိုက်တိုက်ဆိုင်ဆိုင် အိမ်တစ်အိမ်မှာ ညီအစ်ကိုနှစ်ယောက် ရှိတယ်။ နှစ်ယောက်စလုံးဘယ်မှာမှ အိမ်ထောင်ပြုလို့မရဘူးဖြစ်နေတယ်။ သူတို့ကဒီကြော်ငြာကိုတွေ့တော့ပျော်သွားပြီး ကံစမ်းကြည့်မယ်ဆိုပြီး စကားကမ်းလှမ်းလိုက်တယ်။ အဲဒါနဲ့ဟိုလူက "မင်းတို့ စည်းကမ်းချက်တွေ ဖတ်ထားပြီးပြီလား။သဘောတူလားဆိုပြီး မေးတော့ ကောင်လေးတွေက လည်းသဘောတူကြောင်းပြောတာနဲ့ဟိုလူလည်း သူ့သမီးနှစ် ယောက်စ လုံးကို သူတို့နဲ့နိကာဟ်လုပ်ပေးပြီး ထည့်ပေးလိုက်တယ်။ ညီအစ်ကိုနှစ် ယောက်စလုံး ဇနီးကိုယ်စီနဲ့ကိုယ့်အိမ်ကိုယ်ပြန်သွား ကြတယ်။ ရက်အနည်း ငယ်ကြာတော့ညီက အစ်ကိုအိမ်လာပြီး အိမ်ထောင်ရေးအခြေအနေဘယ် လိုရှိလဲဆိုတာသတင်းမေးတယ်။ အစ်ကိုက "တော်တော့်ကို ဒုက္ခရောက် နေတယ်ကွာ၊ ငါ့မိန်းမ ငါ့ကိုဘာအလုပ်မှမလုပ်ပေးဘူးကွာ"။ အိမ်အလုပ်အား လုံးငါပဲလုပ်နေရတယ်။ နောက်ဆုံးငါကိုယ်တိုင် တံမြက်စည်းလှဲရတယ်ကွာ" ဆိုပြီးပြောလိုက်တယ်။ ပြီးတော့သူ့ညီကိုမေးတယ်။ "မင်းကော

အခြေအနေဘယ်လိုရှိသလဲ။" ညီက "ကျွန်တော်ကတော့ လုံးဝအဆင်ပြေနေတယ်။ "အစ်ကိုဖြစ်သူကအံ့ဩပြီးမေးတယ်။ "တယ်ဟုတ်ပါလား။ ဘယ်လိုအဆင်ပြေနေသလဲဆိုတာ ရှင်းစမ်းပါဦးကွာ" ဆိုတော့ညီဖြစ်သူက"ကြောင်ကို ပထမဦးဆုံးနေ့မှာရိုက်ဆိုတဲ့ဆောင်ပုဒ်အတိုင်း ကျင့်သုံးတာပေါ့။ " "မင်းပြောတာငါနားမလည်းဘူး။ ရှင်းရှင်းပြောစမ်းကွာ၊" "ဒီလိုပါအစ်ကိုရာ . . . ကျွန်တော်မင်္ဂလာဦးညမှာအခန်းထဲဝင်တာနဲ့ ကျွန်တော်စီးထားတဲ့မိနပ်ကိုခပ် ကြမ်းကြမ်းဆောင့်ပြီးချွတ်လိုက်တယ်။ ပြီးတော့ရေခွက်ကိုင်ပြီး နံရံကိုပစ်ပေါက်လိုက်တယ်။ အဲဒါကိုကြည့်ပြီးတော့ ကျွန်တော့်မိန်းမတော်တော်လန့်သွားတယ်။ အဲဒီအချိန်မှာပဲ အခန်းထဲကိုကြောင်တစ်ကောင်ဝင်လာတယ်။ အဲဒီကြောင်ကို ကျွန်တော့်အနားမှာရှိတဲ့ဓားနဲ့ အားရှိပါးရှိရိုက်ထုတ်လိုက်တယ်။ ပြီးတော့ ကျွန်တော့်မိန်းမကို ရေယူလာစမ်းကွာဆိုပြီး အသံခပ်မာမာနဲ့ခိုင်းလိုက်တယ်။ ကျွန်တော်သူ့ကို တစ်ခုပြီးတစ်ခုခိုင်းသွားတာ အခုကျွန်တော်လုံးဝအဆင်ပြေနေပြီ။" ဖါရစီ တဆိုက'ကြောင်ကိုပထမဦးဆုံးနေ့မှာရိုက်'ဆိုတာ အဲဒီလိုလုပ်ခိုင်းတာပေါ့။ ခင်ဗျားတို့လည်း ကျောင်းသားတွေရှေ့မှာတည်တည်တန့်တန့် အရှိန်အဝါနဲ့နေပြရင်တော့ ခင်ဗျားတို့အလုပ်ဖြစ်မယ်။ မဟုတ်ရင်တော့ အလုပ်ဖြစ်မှာမဟုတ်ဘူး။

အဲဒါကြောင့် ဆရာသမားတွေအနေနဲ့ အဲနေအထိုင်တည်တန့်ဖို့၊ ကျောင်းသားရှိန်အောင် နေတတ်ဖို့ဆိုတာ အရမ်းအရေးကြီးတဲ့ ကိစ္စတစ်ခုဖြစ်တယ်။ သူတို့အရှေ့မှာ အော်အော်ပြီးရယ်တာတို့၊ ပေါက်ကရပြောတာတို့ဟာ လုံးဝမလုပ်သင့်တဲ့ကိစ္စတစ်ခုဖြစ်တယ်။ အဲဒီလိုမဟုတ်ရင်ကလေးလည်း ခင်ဗျားကိုကြောက်တော့မှာမဟုတ်ဘူး။ အဲဒီလိုကလေး မကြောက်တော့ဘူးဆိုရင် ခင်ဗျားတို့တုတ်ကိုင်ပြီး ကလေးကိုရိုက်ကြမယ်။ အဲဒါလုံးဝမှားယွင်းတဲ့ ကိစ္စတစ်ခုဖြစ်တယ်။ အဲဒီအဆင့်ထိကိုမရောက်အောင် အစပထမနေ့ထဲကနေ သူတို့ကိုယ့်ကို

ရှိသေလေးစားတတ်အောင်လုပ်ထားဖို့ အရေးကြီးတယ်။ ကလေးဆို တာအတုမြင်၊ အတတ်သင် တတ်တဲ့အတွက်ကြောင့် ခင်ဗျားနေထိုင်သလို သူလည်း နေထိုင်လာလိမ့်မယ်။ ခင်ဗျားတို့ကို စာသင်ခန်းထဲမှာ ဘယ်တော့မှပြဿနာလုပ်မှာမဟုတ်ဘူး။ ကျွန်တော်တို့ကျောင်းကြီးတွေမှာ တွေ့ရလိမ့်မယ်။ တချို့ဆရာတွေက ဘယ်တော့မှကလေးတွေကို ရိုက်ပြီးဆုံးမလေ့မရှိကြဘူး။

ကျောင်းသားတွေကို အရမ်းညှာညှာတာတာ ဆက်ဆံလေ့ရှိကြ တယ်။ ကျောင်းသားတွေလည်း သူ့ကိုအဝေးကနေမြင်တာနဲ့ရှိန်ကြတယ်။ ချစ်ကြောက်ရိုသေကြတယ်။ အဲဒီ အဲဒီဆရာတွေရဲ့အနေ အထိုင်တည်ကြည်မှု ကြောင့်ပဲဖြစ်တယ်။ ခင်ဗျားတို့ကိုလည်း မေတ္တာရပ်ခံလိုတာက ကလေးကို တုတ်နဲ့ရိုက်တဲ့အလုပ်မလုပ်ပါနဲ့။ ခင်ဗျားတို့ရဲ့အနေအထိုင်ကိုပဲ ဆင်ခြင်ပါ။ အဲဒါဆိုခင်ဗျားတို့ စာသင်ခန်းတွေလည်း ကြက်သရေရှိလာမှာဖြစ်သလို ခင်ဗျားတို့ကလေးတွေလည်း ချစ်ကြောက်ရိုသေ လာကြလိမ့်မယ်။ အဲဒီရဲ့ အကျိုးဆက်အဖြစ် ဒီကလေးတွေဟာခင်ဗျားတို့ဆီကနေ ပညာသင်ယူ ချင်စိတ်တွေပေါ်လာမှာဖြစ်တယ်။ အကယ်၍ခင်ဗျားတို့က ကလေးတွေနဲ့ ရောပြီး ကလေးကလားဆန်ဆန်ပဲ နေမယ်ဆိုရင်တော့ ခင်ဗျားတို့ကလေး တွေလည်း ထိန်းမရသိမ်းမရတွေ ဖြစ်ကုန်လိမ့်မယ်။

ဆရာသမားများခင်ဗျား . . . မပ်က်သင်ကကလေးတစ်ယောက် ဘယ်လောက်အထိ အလုပ်လုပ်ပြနိုင်သလဲဆိုတာကို ခင်ဗျားတို့ကို ကျွန်တော် အဖြစ်အပျက်လေး တစ်ခုနဲ့တင်ပြချင်ပါတယ်။ ရှာဂျဟန်းဘုရင်လက်ထက်က အိန္ဒိယနိုင်ငံရဲ့ရွာလေးတစ်ရွာမှာ အဖိုးကြီး၊အဖွားကြီး လင်မယားမှာ သမီးလေးတစ်ယောက်ရှိခဲ့တယ်။ အဲဒီသမီးလေးအရွယ်ရောက် လူလား မြောက်လာတော့ သူ့ရဲ့မိဘတွေကရွာထဲကကောင်လေး တစ်ယောက် နဲ့အိမ်ထောင်ချပေးလိုက်တယ်။ အိမ်ထောင်ချ ပေးပြီးကာ လအတန်ကြာ တော့ ကလေးမလေးကိုယ်ဝန်ရလာတယ်။ သူကိုယ်ဝန်ရှိနေချိန်မှာပဲ

သူ့ယောက်ျားဟာ ရုတ်တရက်ဆုံးပါးသွားရှာတယ်။ ရွာထဲကလူတွေကလည်း အဲဒီကလေးမလေးကို ငယ်ငယ်ရွယ်ရွယ်ကိုယ်ဝန်ဆောင်အဖြစ်နဲ့ မုဆိုးမ ဘဝရောက်သွားတယ်ဆိုပြီး တော်တော်သနားကြရှာတယ်။ တစ်ရွာလုံး ကိုယ့်သမီးတစ်ယောက်လို ဝိုင်းဝန်းပြုစုစောင့်ရှောက်ကြရင်းနေ့စေ့ လစေ့အချိန်ရောက်လာတယ်။

တစ်နေ့အဲဒီကလေးမလေးဟာ တစ်ယောက်တည်းရှိုက်ကြီးတငင် ငိုနေတော့တယ်။ လူတွေကသူငိုရတဲ့အကြောင်းရင်းကိုဝိုင်းမေးကြတော့ ကလေးမလေးက "ကျွမ၊သလဲသီးစားချင်လွန်းလို့ ဘယ်မှာမှ ရှာလို့မရတာနဲ့ ရှိုက်ကြီးတငင်ငိုနေရတာပါ။" ဆိုပြီးပြောတော့ ရွာထဲကလူတွေလည်း တော်တော်စိတ်ရှုပ်သွားတယ်။

ရာသီက သလဲသီး သီးတဲ့ရာသီမဟုတ်တော့ ဘယ်လိုလုပ်ပြီး သလဲသီးရနိုင်မှာလဲဆိုပြီး ကလေးမလေးကို ဝိုင်းချော့ကြတယ်။ ကလေးမလေးကလည်း ဘယ်လိုမှပြောလို့လက်မခံဘဲ သူစားချင်စိတ် တစ်ခုဘဲသိတော့ ဆက်ပြီးငိုနေတော့တယ်။ နောက်ဆုံးရွာသားတွေလည်း သူ့ကိုအငို တိတ်အောင် လုပ်ရမယ်ဆိုပြီး သလဲသီးရှာဖို့ရွာအပြင်ကို ထွက်လာကြတယ်။ ရွာအပြင်ရောက်တော့ ခရီးလမ်းတစ်နေရာမှာ ခရီးသည်အဖွဲ့တစ်ဖွဲ့ကို ခရီးတစ်ထောက်နားနေတာတွေ့ရတယ်၊ ရွာသားတွေကသူတို့ဆီမှာအကူအညီတောင်းခံဖို့ဆိုပြီး ရောက်သွားကြတယ်။ အဲဒီခရီးသည်အဖွဲ့ဆိုတာ ကုန်သည်အဖွဲ့ဖြစ်တယ်။ ရွာသားတွေက သူတို့ရဲ့ဖြစ်ကြောင်းကုန်စင်ကိုပြောပြတော့ ခရီးသည်အဖွဲ့ထဲက ကုန်သည်ကြီးတစ်ယောက်က ကူညီဖို့အသင့်ဖြစ်သွားတယ်။ သူကဘာ ပြောလဲဆိုတော့"ခင်ဗျားတို့လိုချင်နေတဲ့သလဲသီး ကျွန်တော့်မှာပါတယ်။ ကျွန်တော်ပေးပါ့မယ်။ ဒါပေမယ့်အဲဒီ ကလေးမဆီကနေ ကျွန်တော်တောင်းဆိုစရာလေးတစ်ခုရှိတယ်။ အဲဒီကိစ္စကိုသူလက်ခံမယ် ဆိုရင် ကျွန်တော်ခင်ဗျားတို့ ပြောတဲ့ကိစ္စကိုလည်း လက်ခံ ဆောင်ရွက်ပေး

မယ်။ အဲဒါကြောင့်ခင်ဗျားတို့ ကျွန်တော့်ကို အဲဒီကလေးမလေးနဲ့တွေ့ပေးလိုပြီး''ပြောတော့ ရှာသားတွေကလည်း သူတောင်းဆိုတဲ့ အတိုင်းလိုက်လျောပြီး သူ့ကိုရွာထဲခေါ်သွားပြီးတော့ အဲဒီကလေးမလေးနဲ့ပေးတွေ့လိုက်တယ်။ အဲဒါနဲ့ကုန်သည်ကြီးက ကလေးမလေးကိုဘာပြောလဲဆိုတော့''မင်းစားချင်နေတဲ့သလဲသီး ငါမင်းကိုကျွေးပါ့မယ်။

ဒါပေမယ့် မင်းငါတောင်းဆိုတဲ့ကိစ္စတစ်ခုကိုလည်း လိုက်လျောပေးရမယ်။ မင်းကိုယ်ဝန်လွယ်ထားတဲ့ ကလေးမွေးလာပြီးတော့ တစ်နေ့သူနိုင်ငံအကြီးအကဲ တစ်ယောက်ဖြစ်လာလို့ရှိရင် သူ့အနေနဲ့ငါ့ရဲ့ ကုန်စည်တွေအားလုံးကို အခွန်ကင်းလွတ်ခွင့်ပေးရမယ်။ တစ်နိုင်ငံလုံးမှာ ငါ့ကုန်စည်တွေအခွန်မဲ့ လွယ်လင့်တကူ ကူးသန်းရောင်းဝယ်ခွင့်ပေးရမယ်။ အဲဒီအချက်ကိုမင်းလက်ခံတယ်ဆိုရင် ဒီစာချုပ်ပေါ်မှာလက်မှတ်ထိုးပေး။ အဲဒါဆိုရင်မင်းစားချင်နေတဲ့သလဲသီးလည်း ငါကျွေးမယ်''ဆိုပြီး ပြောလိုက်တယ်။ ကလေးမလေးကလည်း သလဲသီးစားချင်တဲ့ စိတ်တစ်ခုထဲနဲ့ ကုန်သည်ကြီးပြောသမျှအားလုံးကို လက်ခံသဘော တူကြောင်း စာချုပ်ပေါ်မှာလက်မှတ်ရေးထိုးပေးလိုက်တယ်။ အဲဒါနဲ့ ကုန်သည်ကြီးလည်းသူ့ကတိအတိုင်း ကလေးမလေးစားချင်နေတဲ့ သလဲသီးကိုထုတ်ပေးလိုက်တယ်။ အဲဒါနဲ့ ကလေးမလေးလည်း အဲဒီသလဲသီးကိုမြိန်ရည်ရှက်ရည်စားလိုက်တယ်။

အဲဒီအဖြစ်အပျက်ဖြစ်ပြီး ရက်အနည်းငယ်ကြာတော့ အဲဒီကလေးမလေးက သူလွယ်ထားတဲ့ကိုယ်ဝန်ကို မွေးဖွားလိုက်တယ်။ ယောကျာ်းလေးမွေးတယ်။ ကလေးနာမည်ကို ''စအ်ဗ္ဗလ္လာဟ်'' ဆိုပြီးထားတယ်။ အဲဒီမွေးစကလေးဟာ ပွံ့ဖြိုးတဲ့နေရာမှာ (အခြားကလေးတွေနဲ့ မတူတမူထူးခြားနေတာကိုတွေ့ရတယ်။)သူ့ရဲ့ခန္ဓာကိုယ် အရွယ်အစား၊ ကိုယ်လုံးကိုယ်ပေါက်၊ သွက်လက်ဖျတ်လတ်တဲ့နေရာမှာ အခြားကလေးတွေ ထက် အစစအရာရာမှာ သာနေတာကိုတွေ့ရတယ်။

အဲဒီလိုနေရင်းကနေ ကလေးအသက် လေးငါးနှစ်အရွယ်ရောက်လာတော့ သူ့အမေကသူ့ကို ပညာသင်ပေးဖို့ဆိုပြီး ရွာထဲမှာကုရ်အာန်နာဇိရာဟ် သင်ပေးနေတဲ့ဆရာတစ်ယောက်ရဲ့ မက်သဗ်မှာသွားပြီး အပ်နှံလိုက်တယ်။ ဆရာကလည်းအဲဒီကလေးကိုစာသင်ပေးတော့ အခြားကလေး တွေထက်ထူးခြားနေတာ၊ထက်မြက်နေတာ၊ စာတော်နေတာကိုတွေ့ရတော့ ဆရာလည်းဝမ်းသာအားရနဲ့ ကလေးကိုဂရုတစိုက်နဲ့ အချိန်အပိုပါထုတ်ပြီး သင်ကြားပေးခဲ့တယ်။ နောက်ဆုံးအဲဒီ ရွာထဲကမပ်က်သဗ်မှာပဲ "စအ်ဒွလ္လာဟ်"ဟာ ကုရ်အာန်လည်းဖတ်တတ်သွားတယ်။ တခြားဘာသာရေးအခြေခံပညာတွေကိုလည်း အဲဒီဆရာဆီမှာပဲ သင်ယူပြီးမြောက်အောင်မြင်သွားတယ်။ အဲဒါနဲ့ဆရာကတစ်နေ့ သူ့အမေဆီ ကလေးရဲ့ရှေ့ဆက်မယ့် ပညာရေးနဲ့ပတ်သက်ပြီး ဆွေးနွေးဖို့ ရောက်သွားတယ်။ ဆရာကသူ့အမေ ကိုပြောတယ်။ "ခင်ဗျားကလေး အခုဘာသာရေးအခြေခံအဆင့်ကိုအောင်မြင်သွားပြီလေ။ ဒီကလေးဟာ တခြားကလေးတွေထက်စာရင်တော်လည်းတော်တယ်။ ထက်လည်းထက်တယ်။ အဲဒီတော့ခင်ဗျားဒီကလေးကိုဒီအတိုင်းပဲ မလွှတ်ထားသင့်ဘူး။ သူ့ကိုရှေ့ဆက်ပြီးအထက်တန်းပညာတွေသင်ပေးသင့်တယ်။ ခင်ဗျားအဲဒီကိစ္စကို သဘောတူရင်ဒီကလေးကိုကျွန်တော်နဲ့ ဒေလီမြို့ကိုထည့်ပေးလိုက်ပါ။ ဒေလီမှာကျွန်တော့ဆရာတစ်ယောက်ရှိတယ်။ သူ့ဆီမှာ ခင်ဗျားကလေးကိုသွားအပ်ပေးမယ် "ဆိုပြီး ပြောတော့ ကလေးအမေ ကလည်း ကျေကျေနပ်နပ်နဲ့ပဲ လက်ခံသဘောတူပြီး "စအ်ဒွလ္လာဟ်"ကို သူ့ဆရာနဲ့အတူတူဒေလီမြို့ကို ထည့်ပေးလိုက်တယ်။

ဒီနေရာမှာဖြတ်ပြီးခင်ဗျားတို့ကိုတစ်ခုတင်ပြချင်တာက "စအ်ဒွလ္လာဟ်"ရဲ့ဆရာက သူ့ရဲ့အရည်အချင်းတွေကိုသိပြီးတော့ သူ့ကိုထွန်းလင်း တောက်ပလာမယ့် ကြယ်စင်တစ်ပွင့်ဖြစ်စေလိုတဲ့ရည်ရွယ်ချက်နဲ့ ဒီကလေးရဲ့ရှေ့ဆက်သင်ယူသင့်တဲ့ ပညာရေး

ကိစ္စတွေကိုသောကထားပေးခဲ့သလို ဆရာတို့အားလုံးလည်း အဲဒီလို သောကမျိုးရှိဖို့လိုတယ်။ ခင်ဗျားတို့ရဲ့တပည့်တွေထဲမှာ ဘယ်ကလေး၊ ဘယ်လောက်အရည်အချင်းရှိသလဲဆိုတာ ခင်ဗျားတို့ ခန့်မှန်းပြီးသိနိုင်ပါတယ်။ အဲဒီလို ပင်ကိုယ်အရည်အချင်းကောင်း၊ ပါရမီကောင်းတဲ့ကလေးတွေကို သတိထားမိလို့ရှိရင် အဲဒီလိုကလေးတွေကို တခြားကလေးတွေထက်စာရင် ပိုပြီးဂရုစိုက်ပါ။ အဲဒီအရိုင်းတုံးအဆင့်မှာပဲရှိနေတဲ့ပတ္တမြားကို လင်းဝင်း တောက်ပလာအောင်သွေးပေးရမှာ ဆရာတို့ တာဝန်ပဲဖြစ်တယ်။ အဲဒီလိုကလေးတွေ ခင်ဗျားတို့မက်သင်က နေအောင်မြင်ပြီးမြောက်သွားပြီဆိုရင်လည်း ပြီးပြီးရောဆိုပြီး မလွှတ်ချလိုက်ပါနဲ့။ ဒီကလေးရဲ့ရှေ့ဆက်သင်ယူယင့်တဲ့ပညာရေးကိစ္စတွေကို ကလေးမိဘနဲ့တိုင်ပင် ဆွေးနွေးပြီးတော့ ကောင်းတဲ့အကြံဉာဏ်တွေပေးပါ။ ကလေးကို သာသနာ့ပညာရေးလမ်းကြောင်းပေါ်ကို ဆက်လက်ဆွဲခေါ်သွားပါ။ အဲဒါဟာခင်ဗျားတို့ရဲ့တာဝန်ပဲဖြစ်တယ်။

ခင်ဗျားတို့သာအဲဒီလို သောကထား လိုက်မယ်ဆိုရင် ခင်ဗျားတို့ရဲ့မက်သင်တွေကနေလည်း "စအ်ဒွလ္လာဟ်"လိုကလေးမျိုးတွေ အမြောက်အမြားပေါ်ထွန်းလာမှာဖြစ်တယ်။ "စအ်ဒွလ္လာဟ်" ရှေ့ဆက်ဘာဖြစ်ခဲ့သလဲဆိုတာ ဆက်ပြီးနားထောင်ပါဦး။

မိခင်ရဲ့ခွင့်ပြုချက်ရတာနဲ့ "စအ်ဒွလ္လာဟ်"လည်းရွာကနေ ဒေလီမြို့ပေါ်ရောက်သွားတယ်။ အဲဒီကိုရောက်ပြီး ဟိုမက်သင်ဆရာက သူ့ဆရာဆီမှာ သွားအပ်ပေးလိုက်တယ်။ "စအ်ဒွလ္လာဟ်" အဲဒီဆရာဆီကနေ ပညာတွေတော်တော်များများ သင်ယူခွင့်ရလိုက်တယ်။ အဲဒီ ဒေလီကဆရာဟာ ရှာဂျဟာန်းဘုရင်ရဲ့ဝန်ကြီးချုပ်အိမ်မှာ သူ့ကလေးတွေကိုညနေပိုင်းကျုရင်ကုရ်အာန်သင်ကြားပေးရတယ်။ အဲဒီလိုနေရင်းကနေ တစ်ခေါက် ဘာဖြစ်လဲဆိုတော့ ဆရာကအရေးကြီးကိစ္စတစ်ခုနဲ့ ရွာပြန်ချင်တယ်။ တစ်ပတ်ဆယ်ရက်လောက်ကြာမယ်ဆိုပြီး ဝန်ကြီးဆီမှာ

ခွင့်တောင်းတော့ ဝန်ကြီးက“ဆရာ ဒီလိုရွာကိုပြန်ရင် ကျွန်တော့ ကလေးတွေ စာဖတ်ပျက်မှာပေါ့တဲ့။ ”အဲဒါနဲ့ဆရာက ဘာပြောလဲဆိုတော့ “ဘာမှစာဖတ် ပျက်စရာ အကြောင်းမရှိပါဘူး။ ကျွန်တော်မရှိတုန်း ကျွန်တော့ တပည့်“စအ်ဒ္ဗလ္လာဟ်”ဒီကလေးတွေကို စာလာသင်ပေးပါလိမ့်မယ်” ဆိုပြီးပြောတော့ ဝန်ကြီးကလည်းကောင်းပြီဆိုပြီး ခွင့်ပေးလိုက်တယ်။ အဲဒါနဲ့ဆရာလည်း “စအ်ဒ္ဗလ္လာဟ်”ကို ဝန်ကြီးအိမ်မှာ စာသွားသင်ပေးဖို့ မှာကြားပြီး ရွာကိုပြန်သွားလိုက်တယ်။ အဲဒီတော့ “စအ်ဒ္ဗလ္လာဟ်”က ဆရာမှာကြားတဲ့အတိုင်း အဲဒီမှာကလေးတွေကို နေ့တိုင်းစာသွားသင်ပေး နေတော့တယ်။

တစ်နေ့တော့ “စအ်ဒ္ဗလ္လာဟ် ”စာသင်ပြီးပြန်ထွက် လာတဲ့အခါ ဝန်ကြီးချုပ်ကို သူ့ရဲ့ဥယျာဉ်ထဲမှာ တော်တော် သောကရောက် နေတဲ့ပုံစံ တွေ့လိုက်ရတယ်။ အဲဒါနဲ့“စအ်ဒ္ဗလ္လာဟ်”က ဝန်ကြီးဒုက္ခတစ်ခုခု တွေ့နေတာဖြစ်ပါလိမ့်မယ်။ ကိုယ်တတ်နိုင်သလောက် ကူညီလို့ရအောင်ဆိုပြီး ဝန်ကြီးကိုသွားမေးတယ်။ “ဝန်ကြီးချုပ်ခင်ဗျား . . . . ဘာအခက်ခအခဲများရှိ လို့ ဒီလောက်သောက ရောက်နေရတာလဲ။ ကျွန်တော့ကိုပြောပြကြည့်ပါ။ ကျွန်တော်ကူညီနိုင်တယ်ဆိုရင် ကူညီလို့ရတာပေါ့။” အဲဒါနဲ့ဝန်ကြီးက “စအ်ဒ္ဗလ္လာဟ်”ပြောတဲ့စကားကိုသိပ်အလေးမထားဘဲ“သွားစမ်းပါကွာ။ ဒီမှာလာမရှုပ်နဲ့။ မင်းကဘာလုပ်နိုင်မှာမို့လို့လဲ”ဆိုပြီးနှင်လွှတ်လိုက်တယ်။

ဒုတိယနေ့လည်းတစ်ခါ “စအ်ဒ္ဗလ္လာဟ်”က ဝန်ကြီးကို မနေ့က အခြေအနေနဲ့ပဲထပ်တွေ့တော့ ထပ်ပြီးမနေ့ကပုံစံအတိုင်း သွားမေးတယ်။ ဝန်ကြီးကလည်း သူ့ကိုမနေ့ကအတိုင်းဘဲ ပြန်နှင်ထုတ် လိုက်တယ်။ တတိယနေ့လည်းတစ်ခါ အဲဒီလိုအခြေအနေနဲ့ပဲပြန်တွေ့ရတော့ အဲဒီနေ့ “စအ်ဒ္ဗလ္လာဟ်”လည်း ဒီနေ့တော့ ငါဝန်ကြီးကို ရအောင်မေးမယ်ဆိုပြီး ဆုံးဖြတ်ထားတဲ့အတိုင်း ဝန်ကြီးအနားကိုရောက်သွားတယ်။ “ဝန်ကြီးခင် ဗျား . . . . ဝန်ကြီးရဲ့အခြေအနေကို ကျွန်တော်မကြည့်ရက်တော့လို့ပါ။

ဝန်ကြီး ဘာပြဿနာကြုံနေရသလဲဆိုတာ ကျွန်တော့်ကိုပြောပြကြည့်ပါ။ ဝန်ကြီးပြောသလို ကျွန်တော်မကူညီနိုင်ရင်တောင်မှ ကျွန်တော့်ကို ရင်ဖွင့်လိုက်ရတဲ့ အတွက် စိတ်ထဲမှာနည်းနည်းတော့ ပေါ့သွားမှာပေါ့" ဆိုပြီးပြောတော့ ဝန်ကြီးက "ကဲ ဒီလောက်တောင်သိချင်နေလဲ နားထောင်" ဆိုပြီး "စအ်ဒွလ္လာဟ်" ကို ရင်ဖွင့်လိုက်တယ်။

"ပြဿနာကဘာလဲဆိုတော့ ငါတို့ဘုရင်ရဲ့နာမည်က ရှာဂျဟာန် ဆိုပြီးမှည့်ထားတယ်။ ပြီးတော့ ရှာဂျဟာန်ရဲ့အဓိပ္ပါယ်က "ကမ္ဘာ့ဘုရင်လေ"။ တစ်ကမ္ဘာလုံးကိုအုပ်ချုပ်နေတဲ့သဘောပေါ့။ အခုပြဿနာက ဘာလဲဆိုတော့ ဟိုအီရန်နိုင်ငံကဘုရင်ဟာ ငါတို့ဘုရင်ဆီကို စာရေးပြီးပို့လိုက်တယ်၊ ခင်ဗျားက အိန္ဒိယနိုင်ငံတစ်နိုင်ငံတည်းရဲ့ ဘုရင်ဖြစ်ပြီးတော့ ဘာဖြစ်လို့ "ရှာဂျဟာန်" ဆိုပြီး နာမည်ထားရတာလဲတဲ့။ မသိရင်ခင်ဗျားက အီရန်နိုင်ငံကိုပါအုပ်ချုပ်နေတဲ့ဘုရင်လိုလို ဘာလိုလိုဖြစ်နေတယ်တဲ့။ အဲဒီတော့ ခင်ဗျားနာမည်ကို "ရှာဟောဟင်န်ဒ်" အိန္ဒိယနိုင်ငံဘုရင်ဆိုပြီးပြောင်းပါ။ အခုအဲဒီစာရောက်လာတော့ အဲဒါကိုအဖြေပေးဖို့ဆိုပြီး ဘုရင်က ငါ့ကိုတာဝန်ပေးလိုက်တယ်။ အဲဒါပဲကွာ၊ ငါ့ပြဿနာ။ ဘယ်လို အဖြေရေးရမှန်း မသိဖြစ်နေတယ်။ အခုအထိ အဖြေမရသေးဘူး" ပြောတော့ "စအ်ဒွလ္လာဟ်" က "သြော်-ဝန်ကြီးရယ်၊ ဒီအဖြေလေးများ ကျွန်တော်မေးတဲ့ နေ့ထဲက ဖြေလိုက်ပြီးရော၊ ဒီအဖြေလောက်က ဟိုးမပ်က်သဗ်မှာထဲက ကျွန်တော့်ဆရာ ကျွန်တော့်ကိုသင်ပေးထားတယ်။ သူ့အဖြေကဘာလဲ ဆိုတော့ "ရှာဟောဟင်န်ဒ်"နဲ့ "ရှာဂျဟာန်" စကားလုံးနှစ်ခုစလုံးမှာပါတဲ့ အက္ခရာတွေရဲ့ ကိုယ်စားပြု ကိန်းဂဏန်းတွေကို ပေါင်းလိုက်ရင် အတူတူပဲ။ (ဥပမာ ဗိစ်မစ်လ္လာဟ်မှာပါတဲ့ အက္ခရာ (၁၉)လုံးရဲ့ကိုယ်စားပြုကိန်း တန်ဖိုးကိုပေါင်းလိုက်ရင် ၇၈၆ ရသလိုပေါ့) အဲဒီမှာပါတဲ့ စာလုံးတွေကို ကိန်းဂဏန်းနဲ့ရေတွက်ကြည့်ရင် အဲဒီနာမည်နှစ်လုံးစလုံးရဲ့ ကိန်းဂဏန်းအရေအတွက်က အတူတူပဲ။

အဲဒီတော့ ကျွန်တော်တို့ ''ရှာဂျဟာန်''နာမည်ပဲထားထား၊ ''ရှာဟောဟင်နိုဒ်''နာမည်ပဲထားထား ဘာဖြစ်လဲ။ ဘာမှပြဿနာမရှိဘူး။ ''ဆိုပြီးပြောလိုက်တော့ ဝန်ကြီးကပျော်ရွှင်ပြီးထခုန်တယ်။ ဝန်ကြီး ယူနီဖောင်းတွေဘာတွေဝတ်ပြီး ချက်ချင်းဘုရင်ဆီကို ပြေးသွားတယ်။ ဘုရင်ဆီကိုရောက်ပြီး ''စအ်ဒွလ္လာဟ်''ပြောထားတဲ့အဖြေအတိုင်း ဘုရင့်ကိုပြောပြတော့ ဘုရင်လည်းအဖြေကြားပြီး တစ်ခါတည်း မျက်လုံးမျက်ဆံပြူးသွားတယ်။ အဖြေအရမ်းကောင်းလွန်းတော့ ဘုရင်လည်း သူ့ဝန်ကြီးရဲ့ အခြေအနေကို ရိပ်စားမိတာနဲ့ ဘာပြောလဲဆိုတော့ ''အဖြေကတော့ သိပ်ကောင်းတဲ့အဖြေဘဲ။ ဒါပေမယ့် ဒီအဖြေဟာ ခင်ဗျားပေးတဲ့ အဖြေမဖြစ်နိုင်ဘူး။ အဲဒီတော့အဖြေပေးတဲ့လူကိုခေါ်လာခဲ့ဆိုပြီး ဝန်ကြီးကိုပြောလိုက်တယ်။ အဲဒါနဲ့ဝန်ကြီးလည်း ဘုရင့်အမိန့်အတိုင်း ''စအ်ဒွလ္လာဟ်'' ကိုခေါ်ခိုင်းလိုက်တယ်။ ဘုရင်က ''စအ်ဒွလ္လာဟ်'' လူငယ်လူရွယ်လေးကိုတွေ့တော့ အံ့သြသွားပြီး ''ဒီအဖြေ မင်းပေးတာလား။ ''ဆိုပြီး မေးလိုက်တယ်။ ''စအ်ဒွလ္လာဟ်''ကလည်း သူပေးတာဟုတ်တဲ့ အကြောင်းပြောတော့ ''မင်းဘယ်ကနေ သင်ယူခဲ့တာလဲ'' ဆိုပြီးထပ်မေးတယ်။''စအ်ဒွလ္လာဟ်''က''ကျွန်တော့ဆရာ ကျွန်တော့်ကို ဟိုးငယ်ငယ်လေးကတည်းက မပ်က်သဗ်မှာ ၂၂ ၊ တွေသင်ထားပေးခဲ့လို့ ဒီအဖြေထုတ်နိုင်ခဲ့တာပါ။'' ဆိုပြီးပြောတော့ ဘုရင်ကလည်း ဝန်ကြီးချုပ်ဘက်ကိုလှည့်ပြီး ''ဝန်ကြီးချုပ်ခင်ဗျား . . . . ခင်ဗျားရဲ့ ယူနီဖောင်းကိုချွတ်ပြီးတော့ ''စအ်ဒွလ္လာဟ်''ကိုဝတ်ပေးလိုက်တော့။ ဒီနေ့ကနေစပြီး အိန္ဒိယနိုင်ငံရဲ့ ဝန်ကြီးချုပ်''စအ်ဒွလ္လာဟ်ဖြစ်သွားပြီ''ဆိုပြီး အမိန့်ပေးလိုက်တယ်။ ဒါတကယ့်အဖြစ်အပျက်တစ်ခုပါ။ မယုံရင် အိန္ဒိယနိုင်ငံရဲ့သမိုင်းကို ပြန်ကြည့်ပါ။ အဲဒီမှာ ရှာဂျဟာန်ခေတ်ဝန်ကြီးချုပ်ဟာ ''စအ်ဒွလ္လာဟ်''ဖြစ်တယ်ဆိုတာ တွေ့ရလိမ့်မယ်။

''စအ်ဒွလ္လာဟ်'' ဝန်ကြီးချုပ်ဖြစ်သွားပြီဆိုတဲ့ သတင်းလည်း

ကြားရော ဟိုကုန်သည်ကြီးအပြေးအလွှားနဲ့ "စအ်ဒ္ဒလ္လာဟ်" ဆီရောက်လာတယ်။ ပြီးတော့သူနဲ့ "စအ်ဒ္ဒလ္လာဟ်"ရဲ့အမေချုပ်ဆိုထားတဲ့ စာချုပ်ကိုထုတ်ပြတယ်။ သက်သေတွေလည်းခေါ်လာတယ်။ အဲဒီတော့ ကျွန်တော့်ကို ဒီနေ့ကနေစပြီး တစ်နိုင်ငံလုံးမှာ အခွန်ကင်းလွတ်ခွင့်နဲ့ ကူးသန်းရောင်းဝယ် ခွင့်ပြုပါ။ ဆိုပြီးတောင်းဆိုတယ်။ "စအ်ဒ္ဒလ္လာဟ်"လည်း ခွင့်ပြုပေးလိုက်တယ်။

ဆရာသမားများခင်ဗျား . . . . ဒါ မပ်က်သဗ်ကနေ သီးပွင့်လာတဲ့ အသီးတစ်လုံးပဲ။ သူ့အဆင့်ဘယ်ကနေ ဘယ်ကိုရောက်သွားလဲဆိုတာ ဆရာတို့ကြားကြတဲ့အတိုင်းပဲ။ အဲဒီတော့ ကျွန်တော်တို့ဆီလာတဲ့ ကလေးတွေကို ပေတံတစ်ခုထဲနဲ့မတိုင်းပါနဲ့။ ကလေးတွေရဲ့အရည် အချင်းတွေ၊ ထူးခြားချက်တွေကို လေ့လာပါ။ တကယ်အရည်အချင်း ရှိတဲ့ကလေးတွေရင် သူ့ကိုဘယ်လိုမြေတောင်မြှောက်ပေးရမလဲဆိုတာ စဉ်းစားပါ။ စာသင်ပြီးရင် ပြီးရောဆိုပြီးလွှတ်မထားလိုက်ကြပါနဲ့။ ဆရာတို့ အဲဒီလိုသောက ပိုက်ပြီးကြိုးပမ်းလိုက်မယ်ဆိုရင် ကျွန်တော်တို့ရဲ့ မက်သဗ် လုပ်ငန်းစဉ် ဒီထက်မကအောင်မြင်မယ်လို့ ပြောကြားရင်းနဲ့ နိဂုံးချုပ်အပ်ပါတယ်။

وآخر دعوٰينا ان الحمد لله رب العالمين

# ကုရ်ဗာနီဆိုတာ

ကုရ်ဗာနီအီးဒ်နေ့တစ်နေ့မှာ ကျွန်တော့်ဖခင် (ဟဇရသ်မော်လာနာ စလီမွလ္လာဟ်ခါန်းဆွာဟစ်ဗ်)က ကျွန်တော်တို့ ညီအစ်ကိုတွေနဲ့ အီးဒ်နမာဇ် ဖတ်ပြီး နွားတစ်ကောင် ကုရ်ဗာနီလုပ်တယ်။ မဂ်ရိဗ်ပြီးတော့ ကျွန်တော့်ဖခင် က ကျွန်တော့်ကို မေးတယ်။

"မနက်က ကုရ်ဗာနီလုပ်တာ ဘယ်လိုခံစားရသလဲ။"

"ကျွန်တော်က ထွေထွေထူးထူးတော့ မခံစားရပါဘူး။ ဝါဂျစ်ဗ်တာဝန် တစ်ခု ကျေပွန်လို့ ကြည်နူးရပါတယ်"လို့ အဖြေပေးလိုက်တယ်။

"ကုရ်ဗာနီဆိုတာ တစ်စုံတစ်ခုကို စွန့်လွှတ်ပေးဆပ်ရသလို ခံစားရမှ အဓိပ္ပါယ်ရှိတာ၊ ငါ့သားကို ကြည့်ရတာ ကွမ်းစားတာကို စွဲလန်းနေသလိုပဲ၊ အဲဒီအကျင့်ကို ဒီနေ့လို ကုရ်ဗာနီမှာ စွန့်လိုက်ရင်တော့ အကောင်းဆုံး ပဲပေါ့"လို့ အလွန်ပညာသားပါပါ ဆုံးမပါတယ်။

"ကျွန်တော်လည်း အဲဒီနေ့ကစပြီး
ကွမ်းစားတဲ့ အလုပ်ကို စွန့်လိုက်ပါတယ်။"

ဆရာကြီးမော်လာနာအိုဗိုက်ဒွလ္လာဟ်ခါလိဒ်က
မင်္ဂလာဆောင်ဆရာများကိုပြောကြားသောမိန့်ခွန်းမှကောက်နုတ်ချက်